ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

မန္တလေးမြို့

စာအမှတ်၊ ၂ / ၃ - ၆ / ၂၂ ဦး ၆ ( ၄၈၁ )

ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဩဂုတ်လ ၃၁ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့

အကြောင်းအရာ။ လုပ်ငန်းများစတင်လုပ်ကိုင်ခွင့်ပြုပါရန် တင်ပြခြင်း

ရည်ညွှန်းချက် ။ ( ၁ ) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး၏ ( ၁၀.၃.၂၀၁၆ ) ရက်စွဲပါ စာအမှတ်၊ ၂ / ၃ - ၅ / ၂၂ ဦး ၆ ( ၀၈၆ )

( ၂ ) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး၏ ( ၁၇.၅.၂၀၁၇) ရက်စွဲပါ စာအမှတ်၊ ၂ / ၃ - ၅ / ၂၂ ဦး ၆ ( ၂၃၃ )

( ၃ ) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး၏ ( ၁၇.၈.၂၀၁၇ ) ရက်စွဲပါ စာအမှတ်၊ ၂ / ၃ - ၅ / ၂၂ ဦး ၆ ( ၄၃၇ )

၁။ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်၊ ပလိပ်သစ်ဆိပ်မြေနေရာအား နိုင်ငံတကာအဆင့်မီ ( Dry Port ) စီမံကိန်းဆောင်ရွက်ရန်အတွက် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် Mandalay Dry Port ကုမ္ပဏီလီမိတက်တို့အကြား နှစ်ဦးသဘောတူ B.O.T ပဋိညာဉ်စာချုပ်ကို ( ၂၅.၂.၂၀၁၆ )ရက်နေ့တွင် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့အစည်းအဝေးခန်းမ၌ သဘောတူလက်မှတ်ရေးထိုးခဲ့ပြီး ရည်ညွှန်း ( ၁ )ပါစာဖြင့် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းစတင်လုပ်ကိုင်ခွင့်ပြုရန် တင်ပြခဲ့ပြီးဖြစ်ပါသည်။

၂။ မန္တလေးတိုင်းဒေသကြီး၊ စဉ့်ကိုင်မြို့နယ်၊ ပလိပ်သစ်ဆိပ်မြေနေရာ ( ၁၄.၀၅)ဧကတွင် ကုန်းတွင်းဆိပ်ကမ်းတိန်နာစီမံကိန်းဆောင်ရွက်မည့် Mandalay Dry Port Co.,Ltd သည် Ever Flow River Logistics & Distribution Center (Mandalay ) Co.,Ltd အမည်ဖြင့် စီမံကိန်းကုမ္ပဏီအား အမည်ပြောင်းလဲပြီးစီးပြီးဖြစ်ပါသဖြင့် စာချုပ်ပြင်ဆင်ချုပ်ဆိုနိုင်ရန်အတွက် တင်ပြလာသည့် ပြင်ဆင်ချက်စာချုပ် **(စာမူကြမ်း)** နှင့်ပတ်သက်၍ ဥပဒေ၊ လုပ်ထုံးလုပ်နည်းနှင့် ကိုက်ညီမှုရှိ/ မရှိ စိစစ်၍ ပြန်ကြားပေးနိုင်ပါရန် စာချုပ်မူကြမ်းအား မန္တလေးတိုင်းဒေသကြီးဥပဒေချုပ်ရုံးသို့ ပေးပို့ခဲ့ပြီး တိုင်းဒေသကြီးဥပဒေချုပ်ရုံးမှတစ်ဆင့် ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ စာချုပ်ပါအချက်များအား စိစစ်အတည်ပြုပေးရန် ပေးပို့ခဲ့ရာ ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ အကြံပြုချက်များ၊ ပြင်ဆင်ရန် အချက်များနှင့် ထပ်မံထည့်သွင်းရန် လိုအပ်သည့်အချက်များအား ဖော်ပြလျက် ပြင်ဆင်ချက်စာချုပ်မူကြမ်းအား ပြန်လည်ပေးပို့လာခဲ့ပါသည်။

၃။ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီး၏ ( ၅.၅.၂၀၁၆ )ရက်စွဲပါစာနှင့် ( ၁.၅.၂၀၁၇ )ရက်နေ့ ရက်စွဲပါစာများအရ ကုန်းတွင်းဆိပ်ကမ်းတိန်နာ စီမံကိန်းဆောင်ရွက်ရန်အတွက် မြေနေရာကိစ္စနှင့် ဆိုင်ငံ့ထားရန် ဆုံးဖြတ်ချက်များအား ( ၁၅.၅.၂၀၁၇) ရက်နေ့တွင် လက်ခံရရှိခဲ့ပါသည်။ ထိုသို့လက်ခံရရှိခဲ့သော်လည်း လုပ်ငန်းစဉ်အရ ( ၂၅. ၂.၂၀၁၆ ) ရက်နေ့တွင် နှစ်ဦးသဘောတူ B.O.T စာချုပ်ချုပ်ဆိုခဲ့ပြီးဖြစ်ခြင်းနှင့် လုပ်ငန်းစဉ်များအတိုင်း ဆက်လက်ဆောင်ရွက်လျက်ရှိသဖြင့် ၄င်းပလိပ်သစ်ဆိပ်မြေ ဧရိယာ ( ၁၄.၀၅ )ဧကရှိ မြေနေရာသည် လက်ရှိမြေပြင်တွင် စဥ့်ကိုင်မြို့နယ်၊ လယ်ယာမြေစီမံခန့်ခွဲရေးနှင့် စာရင်းအင်းဦးစီးဌာန၏ ၁ ( က ) စာရင်း၌လည်း ကုန်းတွင်းကွန်တိန်နာစခန်းစီမံကိန်းမြေအဖြစ် ရေးသွင်းထားရှိပြီး ဖြစ်သည့်အပြင် ယခင်အစိုးရလက်ထက်ကပင် ပြည်ထောင်စုအစိုးရအဖွဲ့ရုံးမှ လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက် ဆောင်ရွက်ရန် ခွင့်ပြုချက်ရရှိခဲ့ပြီးဖြစ်သည့်အတွက် ကုန်းတွင်းဆိပ်ကွန်တိန်နာစီမံကိန်းလုပ်ငန်းများ အမြန်အကောင်အထည်ဖော်ဆောင်ရွက်နိုင်ရေးအတွက် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် Ever Flow River Logistics & Distribution Center (Mandalay ) Co.,Ltd ကုမ္ပဏီတို့ BOT စာချုပ်ချုပ်ဆို၍ စီမံကိန်းလုပ်ငန်းများ ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း ရည်ညွှန်း ( ၂ )ပါစာဖြင့် ပြည်ထောင်စုအစိုးရအဖွဲ့ရုံးသို့ ပေးပို့တင်ပြခဲ့ပြီးဖြစ်ပါသည်။

၄။ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် ကုမ္ပဏီအမည် ပြောင်းလဲပြီးစီးပြီးဖြစ်၍ ပြင်ဆင်ချုပ်ဆိုမည့် စာချုပ်မူကြမ်းအား ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ အကြံပြုချက်များအတိုင်း ပြင်ဆင် ပြီးဖြစ်သဖြင့် ပြင်ဆင်ချက်သဘောတူစာချုပ်အား Ever Flow River Logistics & Distribution Center (Mandalay ) Co.,Ltd နှင့် ( ၉.၈.၂၀၁၇ ) ရက်နေ့တွင် လက်မှတ်ရေးထိုးပြီးဖြစ်ပါသည်။ ပြင်ဆင်ချက်သဘောတူစာချုပ် လက်မှတ်ရေးထိုးပြီးဖြစ်ကြောင်း ရည်ညွှန်း ( ၃ ) ပါစာဖြင့် ပြည်ထောင်စုအစိုးရအဖွဲ့ရုံးသို့ တင်ပြပြီးဖြစ်ပါသည်။

၅။ သို့ဖြစ်ပါ၍ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ပိုင် စဥ့်ကိုင်မြို့နယ်၊ ပလိပ်သစ်ဆိပ် မြေဧရိယာ ( ၁၄.၀၅ )ဧကတွင် ကုန်းတွင်းဆိပ်ကွန်တိန်နာ စီမံကိန်းဆောင်ရွက်မည့် Mandalay Dry Port Co.,Ltd သည် Ever Flow River Logistics & Distribution Center (Mandalay ) Co.,Ltd အမည်ဖြင့် ပြောင်းလဲ၍ နိုင်ငံတကာအဆင့်မီ (Dry Port) စီမံကိန်းလုပ်ငန်းအား မြန်မာ နိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လုပ်ကိုင်ခွင့်ပြုပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

ဝန်ကြီးချုပ် ( ကစ )

( ဓာနည်အောင်၊ လျှပ်စစ်၊ စွမ်းအင်နှင့်ဆောက်လုပ်ရေးဝန်ကြီး )

မိတ္တူကို

- Ever Flow River Logistics & Distribution Center (Mandalay ) Co.,Ltd ၊
- ရုံးလက်ခံ/ မျှောစာတွဲ။

ပုံစံ (၂)

# အဆိုပြုချက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ် ၊
ရက်စွဲ ၊ ၁၄ ရက်၊ နိုဝင်ဘာလ၊ ၂၀၁၇ ခုနှစ်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၃၆ နှင့်အညီ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုပါသဖြင့် ခွင့်ပြုပါရန် အောက်ပါအချက်အလက်များကိုဖော်ပြ၍ လျှောက်ထားအပ်ပါသည်-

၁။ ရင်းနှီးမြှုပ်နှံသူ၏ -

(က) အမည် ဦးကျော်လွင်ဦး

(ခ) အဖအမည် ဦးညွန့်လှိုင်

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/ ၁၂/ကမရ (နိုင်) ၀၀၉၂၂၂
နိုင်ငံကူးလက်မှတ်အမှတ် MC583705

(ဃ) နိုင်ငံသား မြန်မာ

(င) နေရပ်လိပ်စာ

(၁) ပြည်တွင်း တိုက်-၂၁၊ အခန်း-၂၀၁၊ ယုဇနလမ်း၊၅ ရပ်ကွက်၊လှိုင်မြို့နယ်၊ ရန်ကုန်

(၂) ပြည်ပ -

(စ) တယ်လီဖုန်း /ဖက်စ် ၀၁-၃၈၁၀၁၀ ၊ ၀၁-၃၈၁၀၆၆

(ဆ) အီးမေးလ်လိပ်စာ mdylogistics.efr@gmail.com

(ဇ) ပင်မကုမ္ပဏီအမည် Ever Flow River Group of Companies (Public) Ltd

(ဈ) ပင်မကုမ္ပဏီတည်ရှိရာလိပ်စာ အမှတ်(၃၉)၊အလံပြဘုရားလမ်း၊ယုနိုက်တက်ကွန်ဒို(၂) စတုတ္ထထပ်၊ဒေယာမင်းကြီးရပ်ကွက်၊ဒဂုံမြို့နယ်၊ရန်ကုန်မြို့

(ည) လုပ်ငန်းအမျိုးအစား ထောက်ပံ့ပို့ဆောင်ရေး နှင့် ဖြန့်ချိရေးစင်တာ

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါကရင်းနှီးမြှုပ်နှံသူနှင့် ဖက်စပ်ပြုလုပ်မည့် သူများ၏ -

(က) အမည် ............................................. -

(ခ) အဖအမည် ............................................. -

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/ ............................................. -

နိုင်ငံကူးလက်မှတ်အမှတ်

(ဃ) နိုင်ငံသား ............................................. -

(င) နေရပ်လိပ်စာ .............................................

(၁) ပြည်တွင်း ............................................. -

(၂) ပြည်ပ ............................................. -

(စ) ပင်မကုမ္ပဏီအမည် ............................................. -

(ဆ) ပင်မကုမ္ပဏီတည်ရှိရာလိပ်စာ ............................................. -

**မှတ်ချက်။** အထက်အပိုဒ် ၁၊ ၂ တို့နှင့် စပ်လျဉ်း၍ အောက်ပါအချက်များကို ပူးတွဲတင်ပြရန်-

(၁) ကုမ္ပဏီမှတ်ပုံတင်အထောက်အထားများ (မိတ္တူ)

(၂) နိုင်ငံသားစိစစ်ရေးကတ်အမှတ် (မိတ္တူ) နှင့် နိုင်ငံကူးလက်မှတ် (မိတ္တူ)

(၃) အဆိုပြုလုပ်ငန်းတွင် ပါဝင်လိုသူများ၏ လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး ဆိုင်ရာအထောက်အထားများ

၃။ ရင်းနှီးမြှုပ်နှံသူကိုယ်တိုင် လျှောက်ထားခြင်းမဟုတ်ပါကလျှောက်ထားသူ၏ -

(က) အမည် ............................................. -

(ခ) ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည် ............................................. -

(လျှောက်ထားသူသည် စီးပွားရေးအဖွဲ့အစည်းဖြစ်ပါက)

မှတ်ချက်။ တရားဝင်ကိုယ်စားလှယ်လွှဲစာပူးတွဲတင်ပြရန်

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ............................................. -

(ဃ) နိုင်ငံသား ............................................. -

(င) မြန်မာနိုင်ငံတွင်နေထိုင်သည့် -

နေရပ်လိပ်စာ -

(စ) တယ်လီဖုန်း /ဖက်စ် -

(ဆ) အီးမေးလ်လိပ်စာ -

၄။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား ထောက်ပံ့ပို့ဆောင်ရေး နှင့် ဖြန့်ချိရေး စင်တာ

၅။ ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဍာန်

☐ ရာခိုင်နှုန်းပြည့် ☐ ဖက်စပ်ပြုလုပ်ခြင်း(ဖက်စပ်စာချုပ်မူကြမ်းတင်ပြရန်)

☐ အခြားသဘောတူညီချက်ပုံစံတစ်မျိုးမျိုးဖြင့်ဆောင်ရွက်ခြင်း(စာချုပ်မူကြမ်းတင်ပြရန်)

၆။ အစုရှယ်ယာရှင်များစာရင်း

| စဉ် | အစုရှယ်ယာရှင်အမည် | နိုင်ငံသား | အစုရှယ်ယာပိုင်ဆိုင်မှု% |
|---|---|---|---|
| ၁။ | တာဝရနန္ဒီအုပ်စု ကုမ္ပဏီများ အများနှင့် သက်ဆိုင်သော လီမိတက် | မြန်မာ | ၅၈% |
| ၂။ | Southern Island Co., Ltd | မြန်မာ | ၃၀% |
| ၃။ | အနာဂါတ် ရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက် | မြန်မာ | ၁၂% |
| | | | |

၇။ ကုမ္ပဏီဖွဲ့စည်းခြင်းနှင့်သက်ဆိုင်သောအချက်အလက်များ

(က) ခွင့်ပြုမတည်ငွေရင်း ကျပ် ၆၅,၀၀၀,၀၀၀,၀၀၀/-

(ခ) အစုရှယ်ယာအမျိုးအစား သာမန်အစုရှယ်ယာ

(ဂ) အစုရှယ်ယာဝင်များကထည့်ဝင်မည့် အစုရှယ်ယာပမာဏ တစ်စုလျှင် တစ်သောင်းတန်

အစုရှယ်ယာပေါင်း (၆,၅၀၀,၀၀၀)

မှတ်ချက်။ သင်းဖွဲ့မှတ်တမ်း/သင်းဖွဲ့စည်းမျဉ်း သို့မဟုတ် ဖွဲ့စည်းပုံအခြေခံစည်းမျဉ်း ပူးတွဲ တင်ပြရန်

၈။ မတည်ငွေရင်းနှင့်သက်ဆိုင်သည့်အချက်အလက်များ-

ကျပ်/~~US$(သန်းပေါင်း)~~

(က) ပြည်တွင်းမှထည့်ဝင်မည့် မတည်ငွေရင်း ပမာဏ/ ရာခိုင်နှုန်း ............ ၁၀,၉၇၆.၆၄/-

(ခ) နိုင်ငံခြားမှ ယူဆောင်လာမည့် မတည်ငွေရင်း ပမာဏ/ ရာခိုင်နှုန်း ............ -

စုစုပေါင်း ............ ၁၀,၉၇၆.၆၄/-

(ဂ) အဆိုပြုမတည်ငွေရင်းနှစ်အလိုက်ထည့်ဝင်မည့်အခြေအနေ/ယူဆောင်လာမည့်ကာလ

............ နောက်ဆက်တွဲဇယား - ၈ ............

(ဃ) ရင်းနှီးမြှုပ်နှံမှုတန်ဖိုး/ပမာဏ ............ ကျပ် ၁၀,၉၇၆,၆၄၇,၆၄၇/-

(င) ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း ............ ကနဦး နှစ် ၅၀ တိတိ

(စ) ရင်းနှီးမြှုပ်မှုလုပ်ငန်းတည်ဆောက်မှုကာလသို့မဟုတ် ပြင်ဆင်မှုကာလ ............ ၁၈ လ

မှတ်ချက်။ အပိုဒ် ၈(င) နှင့် စပ်လျဉ်း၍ ထူးခြားသည့် အခြေအနေရှိပါက နောက်ဆက်တွဲဖြင့် ဖော်ပြပါရန်

၉။ နိုင်ငံခြားမှ ယူဆောင်တင်သွင်းလာမည့် မတည်ငွေရင်း၏ အသေးစိတ်စာရင်း-

| | နိုင်ငံခြားငွေ (သန်းပေါင်း) | ညီမျှသည့်ခန့်မှန်းငွေကျပ် (သန်းပေါင်း) |
|---|---|---|
| (က) နိုင်ငံခြားငွေ (အမျိုးအစားနှင့် တန်ဖိုးပမာဏ) | ............ | ............ |
| (ခ) စက်ပစ္စည်းများ၊ စက်ကိရိယာများ စသည့်ပစ္စည်းတို့၏ တန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | ............ | ............ |
| (ဂ) ကနဦးကုန်ကြမ်းပစ္စည်းများနှင့် အခြားအလားတူပစ္စည်းများ၏ တန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | ............ | ............ |
| (ဃ) လိုင်စင်၊ တီထွင်မှုပိုင်ဆိုင်ခွင့်၊ စက်မှုဒီဇိုင်း၊ကုန်အမှတ်တံဆိပ်၊ မူပိုင်ခွင့် စသည့် အသိဉာဏ် | ............ | ............ |

ဆိုင်ရာပစ္စည်းများကိုတန်ဖိုး
ဖြတ်နိုင်သောအခွင့်အရေးများ၏
တန်ဖိုးပမာဏ

(င) ကျွမ်းကျင်မှုနည်းပညာရပ်များ၏ ............ ............
တန်ဖိုးပမာဏ

(စ) အခြား (ဥပမာ-ဆောက်လုပ်ရေ
း လုပ်ငန်းသုံးပစ္စည်းများ) ............ ............

စုစုပေါင်း ________ ________

**မှတ်ချက်။** အပိုဒ် ၉ (ဃ) (င) တို့နှင့် စပ်လျဉ်း၍ အသုံးပြုခွင့်အထောက်အထားများ ပူးတွဲ တင်ပြရန်။

၁၀။ ပြည်တွင်းမှထည့်ဝင်မည့် မတည်ငွေရင်း၏ အသေးစိတ်စာရင်း-

| | မတည်ငွေ (ကျပ်သန်းပေါင်း) | နိုင်ငံခြားငွေ (US$) 1 US$ = 1,300 kyats | စုစုပေါင်း (ကျပ်သန်းပေါင်း) |
|---|---|---|---|
| (က) ငွေပမာဏ | ၅၄၄.၀၆/- | | ၅၄၄.၀၆/- |
| (ခ) စက်ပစ္စည်းကိရိယာများတန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | | ၃,၁၂၂.၅၀/- နောက်ဆက်တွဲဇယား ၁(ခ) | ၃,၁၂၂.၅၀/- |
| (ဂ) မြေ/ အဆောက်အအုံ တန်ဖိုး သို့မဟုတ် ငှားရမ်းခ | ၄၈၂.၆၅/- | | ၄၈၂.၆၅/- |
| (ဃ) အဆောက်အအုံဆောက်လုပ်မှုကုန်ကျစရိတ် | ၁,၂၇၉.၄၆/- | | ၁,၂၇၉.၄၆/- |
| (င) ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | ၄၆.၉၉/- နောက်ဆက်တွဲဇယား - ၂ | | ၄၆.၉၉/- |
| (စ) ကနဦးကုန်ကြမ်းပစ္စည်းတန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | | | |
| (ဆ) အခြား | ၅,၅၀၀.၉၈/- | | ၅,၅၀၀.၉၈/- |
| **စုစုပေါင်း** | ၇,၈၅၄.၁၄/- | ၃,၁၂၂.၅၀/- | ၁၀,၉၇၆.၆၄/- |

၁၁။ ချေးငွေနှင့်သက်ဆိုင်သည့် အချက်အလက်များ-

☐ ပြည်တွင်းချေးငွေ - ကျပ်

- အမေရိကန်ဒေါ်လာ

☐ ပြည်ပချေးငွေ - အမေရိကန်ဒေါ်လာ

၁၂။ ဆောင်ရွက်မည့် စီးပွားရေးအဖွဲ့အစည်းနှင့် သက်ဆိုင်သောအချက်အလက်များ-

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသ(များ)/တည်နေရာ မန္တလေးတိုင်းဒေသကြီး၊ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်၊ ပုလိပ်ဘူတာအနီးရှိ မြေဧရိယာ ၁၄.၀၅ ဧက

(ခ) မြေ သို့မဟုတ် မြေနှင့်အဆောက်အအုံနေရာအမျိုးအစားနှင့် အကျယ်အဝန်းလိုအပ်ချက်

(၁) တည်နေရာ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်၊ ပုလိပ်ဘူတာအနီး

(၂) မြေ/အဆောက်အအုံအကျယ်အဝန်း၊အရေအတွက် ၁၄.၀၅ ဧက

(၃) လက်ရှိပိုင်ဆိုင်သူ မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့

(ကက) အမည်/ ကုမ္ပဏီအမည်/ဌာန -

(ခခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ် -

(ဂဂ) နေရပ်လိပ်စာ -

(၄) မြေအမျိုးအစား စီမံကိန်းမြေ (လယ်မြေမှတစ်ပါး လယ်ယာမြေအား အခြားနည်းအသုံးပြုရန် ခွင့်ပြုမိန့်)

(၅) မြေငှားဂရန် ခွင့်ပြုကာလ မြေငှားဂရန်လျှောက်ထားဆဲ

(၆) ငှားရမ်းမည့်ကာလ မှ ထိ (၅၀ )နှစ်

(၇) ငှားရမ်းခနှုန်းထား

(ကက) မြေ နှစ်စဉ် (၁ဧက) အတွက် ငွေကျပ် ၁၂ သိန်းတိတိ

(ခခ) အဆောက်အအုံ -

(၈) ရပ်ကွက် -

(၉) မြို့နယ် စဉ့်ကိုင်မြို့နယ်

(၁၀) ပြည်နယ်/တိုင်းဒေသကြီး မန္တလေးတိုင်းဒေသကြီး

(၁၁) ငှားရမ်းမည့်ပုဂ္ဂိုလ်

(ကက) အမည်/ ကုမ္ပဏီအမည်/ဌာန E.F.R Logistics & Distribution Center (Mandalay) Co., Ltd

(ခခ) အဖအမည် နိုင်ငံသား

(ဂဂ) (ဃဃ) နိုင်ငံကူးလက်မှတ်အမှတ်/ နိုင်ငံသားစိစစ်ရေးကတ်အမှတ်

(cc) နေရပ်လိပ်စာ ၊စကုတ္တထပ်၊ယောမင်းကြီးရပ်ကွက်၊ဒဂုံမြို့နယ်၊ရန်ကုန်မြို့

(ဂ) ဆောက်လုပ်မည့်အဆောက်အအုံလိုအပ်ချက်

(၁) အဆောက်အအုံအမျိုးအစား/အရေအတွက် နောက်ဆက်တွဲဇယား - ၁ (ဂ)

(၂) အကျယ်အဝန်း နောက်ဆက်တွဲဇယား - ၁ (ဂ)

(ဃ) နှစ်စဉ်ထုတ်လုပ်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှု နောက်ဆက်တွဲဇယား - ၅

(င) နှစ်စဉ် လျှပ်စစ်ဓါတ်အားလိုအပ်ချက် ၂၀,၀၀၀ KVA

(စ) နှစ်စဉ် ရေလိုအပ်ချက် တစ်နှစ်လျှင်ရေဂါလံ ၂၅၅,၉၀၀

မှတ်ချက်။ အပိုဒ်၁၂(ခ)နှင့်စပ်လျဉ်း၍အောက်ပါအချက်များပူးတွဲတင်ပြရန်-

(၁) မြေပိုင်ဆိုင်မှု/မြေဂရန်အထောက်အထား(စက်မှုဇုန်မှ အပ)နှင့်မြေပုံ

(၂) မြေငှားစာချုပ်(မူကြမ်း)

၁၃။ ငွေကြေးပိုင်ဆိုင်မှုနှင့် ပတ်သက်၍ အသေးစိတ်ဖော်ပြချက်-

(က) အမည်/ ကုမ္ပဏီအမည် E.F.R Logistics and Distribution Center (Mandalay) Co., Ltd Account

(ခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် -

(ဂ) ဘဏ်စာရင်းအမှတ် 206-304-20600484901 (KBZ Bank)

(မိခင်နိုင်ငံရှိဘဏ်ထောက်ခံချက် သို့မဟုတ် မိခင်ကုမ္ပဏီ၏စာရင်းစစ်ပြီးသည့် နှစ်ချုပ်စာရင်းပူးတွဲတင်ပြရန်)

၁၄။ ဆောင်ရွက်မည့် စီးပွားရေးအဖွဲ့အစည်းတွင် လိုအပ်မည့် ဝန်ထမ်းများစာရင်း

| စဉ် | အဆင့်အတန်း | မြန်မာနိုင်ငံသား | နိုင်ငံခြားသား | စုစုပေါင်း |
|---|---|---|---|---|
| (က) | အကြီးတန်းစီမံခန့်ခွဲမှု<br>(မန်နေဂျာများ၊ အဆင့်မြင့်အရာရှိများ) | ၈ | | ၈ |
| (ခ) | အခြားအဆင့်စီမံခန့်ခွဲမှု<br>(အကြီးတန်းစီမံခန့်ခွဲမှုမှအပ) | ၅ | | ၅ |
| (ဂ) | သက်မွေးဝမ်းကျောင်းပညာရှင်များ | ၁၂ | | ၁၂ |
| (ဃ) | နည်းပညာနှင့်ဆက်စပ်သည့်သက်မွေးပညာရှင် | ၄ | | ၄ |
| (င | အကြံပေး | | | |
| (စ | ကျွမ်းကျင်လုပ်သား | ၂၂ | | ၂၂ |
| (ဆ) | အခြေခံလုပ်သား | ၁၁ | | ၁၁ |
| | စုစုပေါင်း | ၆၂ | | ၆၂ |

မှတ်ချက်။ အောက်ဖော်ပြပါ ဖော်ပြချက်များပူးတွဲဖော်ပြရန်

(၁) လုပ်သားများ၏ လူမှုဖူလုံရေး၊သက်သာချောင်ချိမှုဆောင်ရွက်မည့် အစီအမံများ

(၂) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းပြုလုပ်မည့် အစီအမံများ

၁၅။ အဆိုပြုချက်နှင့်အတူအောက်ဖော်ပြပါ လျှောက်ထားလွှာများကိုတင်ပြလျှောက်ထားခြင်းရှိ/ မရှိဖော်ပြရန်-

☐ မြေအသုံးပြုခွင့်လျှောက်ထားလွှာ

☐ အခွန်ကင်းလွတ်ခွင့်သို့မဟုတ် သက်သာခွင့်လျှောက်ထားလွှာ

၁၆။ အဆိုပြုရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအကျဉ်းချုပ်အား နောက်ဆက်တွဲဖြင့် ဖော်ပြရန်။

လျှောက်ထားသူလက်မှတ်

အမည် ကျော်လွင်ဦး

ရာထူး မန်နေးဂျင်းဒါရိုက်တာ

ဌာန/ကုမ္ပဏီတံဆိပ် ..........

ရက်စွဲ-

**အဆိုပြုရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအကျဉ်းချုပ်(နည်းဥပဒေ ၃၈)**

၁။ ရင်းနှီးမြှုပ်နှံမှုတွင် တိုက်ရိုက်ဖြစ်စေ၊ သွယ်ဝိုက်၍ဖြစ်စေ အကျိုးစီးပွား သိသာထင်ရှားစွာ ပါဝင်သော အခြားပုဂ္ဂိုလ်များဖော်ပြရန်-

(က) ရင်းနှီးမြှုပ်နှံသူမှ ရရှိမည့် အမြတ်ငွေ ၏ ၁၀ % နှင့် အထက်ကို ပိုင်ဆိုင်ခွင့်ရှိသည့် သို့မဟုတ် ထိန်းချုပ်ခွင့်ရှိသည့် လုပ်ငန်း၏-

(၁) အမည် — Ever Flow River Group of Companies (Public) Ltd

(၂) ဆက်သွယ်ရမည့်လိပ်စာ — အမှတ်(၃၉)၊အလံပြဘုရားလမ်း၊ယူနိကတ်တက်ကွန်ဒို(၂) ၃၀ရတ္တထပ်၊ဗိုလ်ချုပ်မင်းကြီးရပ်ကွက်၊ဒဂုံမြို့နယ်၊ရန်ကုန်မြို့

(၃) မှတ်ပုံတင်အမှတ် — ---

(တစ်ဦး ထက်ပိုပါက နောက်ဆက်တွဲဖြင့် ဖော်ပြရန်)

(ခ) ခွင့်ပြုမည့်ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းဆောင်ရွက်ရာတွင်တိုက်ရိုက်ပါဝင်သည့် လက်အောက်ခံကုမ္ပဏီများရှိလျှင် အဆိုပါကုမ္ပဏီများ၏အမည်ကို ဖော်ပြရန်-

(၁) -

(၂) -

(၃) -

၂။ ရင်းနှီးမြှုပ်နှံမှု၏ အဓိကတည်နေရာ သို့မဟုတ် တည်နေရာများ — မန္တလေးတိုင်းဒေသကြီး၊ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်၊ ပုလိပ်ဘူတာအနီးရှိ မြေဧရိယာ ၁၄.၀၅ ဧက

၃။ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းပြုလုပ်မည့်ကဏ္ဍနှင့် ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းများ ဖော်ပြချက် — ထောက်ပံ့ပို့ဆောင်ရေး ၊ ဖြန့်ချိရေး

၄။ အဆိုပြုထားသော ရင်းနှီးမြှုပ်နှံမှုပမာဏ (မြန်မာကျပ် နှင့် အမေရိကန်ဒေါ်လာ တို့ဖြင့် ဖော်ပြရန်) — ကျပ်သန်းပေါင်း ၁၀,၉၇၆.၆၄

၅။ ရင်းနှီးမြှုပ်နှံမှု အကောင်အထည်ဖော်မည့် ခန့်မှန်းအချိန်ဇယား အပါအဝင် အစီအစဉ်ဖော်ပြချက်-

(က) တည်ဆောက်ရေးကာလသို့မဟုတ် ပြင်ဆင်မှုကာလ(နှစ်၊လတို့ဖြင့်ဖော်ပြရန်) ၁၈ လ

MIC ခွင့်ပြုမိန့်ရပြီး တည်ဆောက်ရေးကာလအပြီး ၂လ

(ခ) စီးပွားဖြစ်စတင်မည့်ကာလ (နှစ်၊လတို့ဖြင့်ဖော်ပြရန်) ၂၀၁၉ ခုနှစ် ဇွန်လ (ခန့်မှန်း)

၆။ ခန့်ထားမည့် အလုပ်သမားဦးရေ -

(က) ပြည်တွင်း ၆၂ ဦး

(ခ) ပြည်ပ (ပညာရှင်/ကျွမ်းကျင်သူ) ----------

၇။ ပြည်ပမှ ပြည်တွင်းသို့ ယူဆောင်လာမည့် မတည် ရင်းနှီးမြှုပ်နှံမှုများတွင် ငွေသားဖြင့် ယူဆောင်မှု ပမာဏ (Capital in-Cash)၊ ရင်းနှီးပစ္စည်း အဖြစ်ယူဆောင် လာမည့် ရင်းနှီးငွေပမာဏ (Capital in-Kinds) တို့အား တိကျစွာခွဲခြားသတ်မှတ် ဖော်ပြပေးရန်(မြန်မာကျပ် နှင့် အမေရိကန် ဒေါ်လာ တို့ဖြင့်ဖော်ပြရန်

(က) ငွေသားဖြင့်ယူဆောင်မှုပမာဏ ကျပ်သန်းပေါင်း ၇,၈၅၄.၁၄/-

(ခ) ပစ္စည်းအဖြစ်ယူဆောင်လာမည့် ရင်းနှီးငွေပမာဏ ကျပ်သန်းပေါင်း ၃,၁၂၂.၅၀/-

**မှတ်ချက်။** ရင်းနှီးမြှုပ်နှံသူသည် ရင်းနှီးမြှုပ်နှံမှုနှင့် သက်ဆိုင်သော လျှို့ဝှက်ထိန်းသိမ်းရမည့် သတင်း အချက်အလက်များအား ထုတ်ပြန်ခြင်းမှ ရှောင်ကြဉ်ရန် ကော်မရှင်ထံ တင်ပြတောင်း ဆိုနိုင်သည်။

## ကတိဝန်ခံချက်

အထက်ဖော်ပြပါ လျှောက်ထားသူမှပေးအပ်သည့် အချက်အလက်များအားလုံးသည် မှန်ကန်မှု ရှိပါကြောင်းအာမခံပါသည်။

ဤအဆိုပြုချက်တွင် ခွင့်ပြုမိန့်ထုတ်ပေးရန်အတွက် ကော်မရှင်မှ စိစစ်ရာ၌ လိုအပ်သည့် အချက်အလက်များကို လျှောက်ထားသူကပေးအပ်ရန် ပျက်ကွက်ပါက အဆိုပြုချက်ကို ငြင်းပယ်ခြင်း သို့မဟုတ် စိစစ်ရာ၌ မလိုလားအပ်သည့် နှောင့်နှေးကြန့်ကြာခြင်းတို့ ဖြစ်ပေါ်နိုင်ကြောင်း ကောင်းစွာ သဘောပေါက်နားလည်ပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ချမှတ်မည့် စည်းမျဉ်းစည်းကမ်းများကိုလည်း လိုက်နာမည်ဖြစ်ကြောင်းဝန်ခံကတိပြုအပ်ပါသည်။

လျှောက်ထားသူလက်မှတ်

အမည် ..........................................

ရာထူး ..........................................

ဌာန/ကုမ္ပဏီတံဆိပ် ..........................

E.F.R

**EVER FLOW RIVER**
**LOGISTICS & DISTRIBUTION CENTER (MANDALAY) COMPANY LIMITED**

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့

အကြောင်းအရာ။ ။ လုပ်ငန်းအမျိုးအစား ပြောင်းလဲ၍ လုပ်ဆောင်မည်မှာမှန်ကန်ပါကြောင်း နှင့် ပတ်သတ်၍ ကတိဝန်ခံချက်ပေးပို့ခြင်း

ကျွန်တော်များ"E.F.R Logistics and Distribution Center (Mandalay) Co., Ltd"ကုမ္ပဏီလီမိတက်သည် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် တွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်၊ ပုလိပ်အုပ်စု၊ ပုလိပ်ဘူတာအနီးရှိမြေဧရိယာ ၁၄.၀၅ဧက တွင် ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ တွင် မန္တလေးတိုင်းဒေသကြီးအစိုးရနှင့် Dry Port လုပ်ငန်းအနေဖြင့်လုပ်ကိုင်ရန် သဘောတူစာချုပ်ရေးထိုးခဲ့ပါသည်။ ယခုအခါတွင် ကျွန်တော်များအနေဖြင့် Dry Port လုပ်ငန်းအမျိုးအစားမှ Logistics and Distribution Center ထောက်ပံ့ပို့ဆောင်ရေးနှင့် ဖြန့်ချီရေးစင်တာ လုပ်ငန်းအမျိုးအစားသို့ ပြောင်းလဲ၍ လုပ်ငန်းများဆက်လက် လုပ်ဆောင်မည်မှာ မှန်ကန်ပါကြောင်း ကတိဝန်ခံချက်ပေးပါသည်။

လေးစားစွာဖြင့်

(signature)

ကျော်လွင်ဦး

မန်းနေဂျင်းဒါရိုက်တာ

E.F.R Logistics and Distribution Center (Mandalay) Co., Ltd

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပြည်ထောင်စုရှေ့နေချုပ်ရုံး

နေပြည်တော်

[illegible] ၁၄. ၁. ၂၀၁၆
၅၂၇
အကြောင်းအရာ။
မှတ်ချက် (၃)

စာအမှတ်၊ ၂(၅) ၄ - ၃ / နပတ( ၂၀ )

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၁၁ ရက်

ဝလိပ်သစ်ဆိပ်အား (Dry Port) ကုန်သေတ္တာစခန်းနှင့် လုပ်ငန်းများအား BOT စနစ်ဖြင့် လုပ်ကိုင်ဆောင်ရွက်ရန်အတွက် ချုပ်ဆိုမည့် ငှားရမ်းခြင်းသဘောတူစာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ

ရည်ညွှန်းချက်။ (၁) မန္တလေးတိုင်းဒေသကြီးဥပဒေချုပ်ရုံး၏ ၁၅-၁၂-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ၉(၂) ၁/၁ (၁၃၈)

(၂) မန္တလေးတိုင်းဒေသကြီးအစိုးရ၊ လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန၊ မန္တလေးမြို့၏ ၇-၁၀-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၉၆/ ၂၀၀၀ (၅)/ (Dry Port)/ ၂၀၁၅ (၅၃၁)

၁။ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ပိုင် မန္တလေးတိုင်းဒေသကြီး၊ စဥ့်ကိုင်မြို့နယ်အတွင်းရှိ ပလိပ်သစ်ဆိပ်မြေဧရိယာ (၁၄.၀၅)ကေအပေါ်တွင် (Dry Port) ကုန်သေတ္တာစခန်းနှင့် လုပ်ငန်းများအား B.O.T စနစ်ဖြင့် လုပ်ကိုင်ရန်အတွက် မန္တလေးတိုင်းဒေသကြီးအစိုးရ၊ လမ်းပန်းဆက်သွယ်ရေး ဝန်ကြီးဌာန Mandalay Dry Port Co., Ltd တို့အကြား ချုပ်ဆိုမည့် ငှားရမ်းခြင်းသဘောတူစာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်ပေးနိုင်ပါရန် မန္တလေးတိုင်းဒေသကြီးဥပဒေချုပ်ရုံးမှ ရည်ညွှန်းချက်(၁)ပါစာဖြင့် မေတ္တာရပ်ခံလာသောကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်(၁)ပါစာဖြင့် ပေးပို့လာသော စာချုပ်(မူကြမ်း)အား မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ ရည်ညွှန်းချက်(၂)ပါစာဖြင့် မန္တလေးတိုင်းဒေသကြီးဥပဒေချုပ်ရုံးသို့ ပေးပို့ခဲ့ရာ မန္တလေး

လျှို့ဝှက်

တိုင်းဒေသကြီးဥပဒေချုပ်ရုံးမှ ပြည်တွင်းပြည်ပရင်းနှီးမြှုပ်နှံမှုဆိုင်ရာ စာချုပ်စာတမ်းဖြစ်သောကြောင့် ပြည်ထောင်စုရှေ့နေချုပ်ဥပဒေပုဒ်မ ၁၂၊ ပုဒ်မခွဲ (ဌ)နှင့်အညီ ဤရုံးသို့ အကြံပြုချက်ပေးဝါရန် ရည်ညွှန်းချက်(၁)ပါစာဖြင့် ပေးပို့လာခြင်းဖြစ်ပါသည်။

၃။ ရည်ညွှန်းချက်(၁)ပါစာနှင့်အတူ MOU အား ပေးပို့လာရာ ပေးပို့လာသော MOU မှာ ဝလီပ်သစ်ဆိပ်တွင် Dry Port ကုန်းတွင်းကုန်တင်ကွန်တိန်နာစခန်းစီမံကိန်း ဆောင်ရွက်ရန်အတွက် စာချုပ်ဝင်များအကြား နှစ်ဦးနှစ်ဖက်နားလည်မှုစာချွန်လွှာအဖြစ် ၁၂-၈-၂၀၁၅ ရက်နေ့တွင် လက်မှတ်ရေးထိုးခဲ့သည့် MOU တစ်ရပ်သာဖြစ်ကြောင်း ဖော်ပြအပ်ပါသည်။

၄။ ရည်ညွှန်းချက်(၁)ပါစာနှင့်အတူ ပေးပို့လာသော စာချုပ်(မူကြမ်း)အပေါ် ဥပဒေရှုထောင့်မှ လေ့လာစိစစ်ပြီး အောက်ပါအတိုင်း သုံးသပ်အကြံပြုအပ်ပါသည် -

(က) စာချုပ်(မူကြမ်း)တွင် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ပိုင် မြေအား ငှားရမ်း၍ ကုန်းတွင်းကွန်တိန်နာ (Dry Port) ကို တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်း (BOT)စနစ်ဖြင့် ဆောင်ရွက်မည်ဖြစ်ကြောင်း တွေ့ရှိရပါသည်။ သို့ရာတွင် လုပ်ငန်းဆောင်ရွက်မည့် BOT စာချုပ်(မူကြမ်း)ကိုသာ ပေးပို့ခဲ့ပြီး မြေငှားစာချုပ်(မူကြမ်း) မပါရှိပါ။ မြေငှားစာချုပ်အား သီးခြားချုပ်ဆိုရန် လိုအပ်ပါသည်။ ထို့ပြင် မြေငှားစာချုပ်ပါ စည်းကမ်းချက်များသည် BOT စာချုပ်(မူကြမ်း)ပါ စည်းကမ်းချက်များနှင့်ညီညွတ်ရန် လိုအပ်ပါသည်၊

(ခ) စာချုပ်(မူကြမ်း)၏ စာချုပ်ဝင်အပိုဒ်တွင် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့အား အငှားချထားသူ (လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ) ဟုလည်းကောင်း၊ Mandalay Dry Port Co., Ltd အား အငှားချထားခြင်းခံရသူ (လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ)ဟုလည်းကောင်း ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ BOT စာချုပ်(မူကြမ်း)ဖြစ်၍ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့အား လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူဟုလည်းကောင်း၊ Mandalay Dry Port Co., Ltd အား

လုပ်ငန်းလုပ်ကိုင်ခွင့်ရသူဟုလည်းကောင်း သုံးစွဲသင့်ပါသည်။ အငှားချထားသူ၊ အငှားချထားခြင်းခံရသူဆိုသည့်စကားရပ်များမှာ မြေငှားစာချုပ်၌သာ သုံးစွဲသင့်ပါသဖြင့် ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း)၏ စာချုပ်ဝင်အပိုဒ်အောက်ရှိ အဓိပ္ပါယ်ဖွင့်ဆိုချက် ခေါင်းစဉ်ပါ အပိုဒ် ၁(ခ)တွင် ငှားရမ်းမည့်မြေဧရိယာ (၁၄.၀၅)ဧကအား နောက်ဆက်တွဲမြေပုံဖြင့် ဖော်ပြထားသည်ဟုလည်းကောင်း၊ စာချုပ်(မူကြမ်း) အပိုဒ် ၁ တွင် "နောက်ဆက်တွဲများ" ဟုလည်းကောင်း၊ အပိုဒ် ၂(က)တွင် "ဤစာချုပ်၏ပူးတွဲမြေပုံကြမ်းတွင် --------" ဟုလည်းကောင်း၊ အပိုဒ် ၁၈ တွင် "ဤစာချုပ်တွင်ပါရှိသည့် ဂရံစာချုပ်မိတ္တူ၊ မြေပုံ -------- ဤသဘောတူစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်သည်" ဟုလည်းကောင်း ဖော်ပြထားသော်လည်း စာချုပ်(မူကြမ်း)၌ နောက်ဆက်တွဲများ ပူးတွဲပါရှိလာခြင်းမရှိပါ။ နောက်ဆက်တွဲများသည် စာချုပ်၏တစ်စိတ်တစ်ဒေသဖြစ်သဖြင့် စာချုပ်ချုပ်ဆိုချိန်တွင် ပြည့်စုံစွာပူးတွဲပြီးဖြစ်ရန် လိုအပ်ပါသည်။ ထို့ပြင် အဆိုပါမြေပုံသည် သက်ဆိုင်ရာဌာနမှ တရားဝင်ရေးဆွဲပေးသောမြေပုံဖြစ်ရန် လိုအပ်ပါသည်။ ဌာနက ပြန်လည်စိစစ်သင့်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ် ၁ အား အဓိပ္ပါယ်ဖွင့်ဆိုချက်ခေါင်းစဉ်ဖြင့်လည်းကောင်း၊ အာမခံခြင်းနှင့် ကိုယ်စားပြုခြင်းခေါင်းစဉ်ဖြင့်လည်းကောင်း ဖော်ပြထားရာ စာချုပ်(မူကြမ်း)ပါ စည်းကမ်းချက်အပိုဒ်အမှတ်စဉ်များထပ်နေ၍ အမှတ်စဉ်လိုက်မှန်ကန်စွာ ဖော်ပြနိုင်ရေးအတွက် ဌာနမှ တာဝန်ယူစိစစ်ရန် လိုအပ်ပါသည်။ ထို့ပြင် အပိုဒ် (၁) အဓိပ္ပါယ်ဖွင့်ဆိုချက်၊ အပိုဒ်ခွဲ (င)တွင် "စီမံကိန်းတည်ဆောက်ရေးကာလဆိုသည်မှာ ဤစာချုပ်၏စာပိုဒ် ၉ တွင် ဖော်ပြသတ်မှတ်ထားသည့် မလွန်ဆန်မတားဆီးနိုင်သောဖြစ်ရပ်များမှအပ ---------- ကာလကိုဆိုလိုသည်" ဟုဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ ယင်းစည်းကမ်းချက်

ပါ ရည်ညွှန်းစာပိုဒ် ၉ မှာ စာချုပ်အကျိုးသက်ရောက်မည့်နေ့နှင့် သက်ဆိုင်သည့်စည်းကမ်းချက်ဖြစ်၍ ရည်ညွှန်းစာပိုဒ်များ မှန်ကန်မှုရှိစေရေးအတွက် ၎င်းနေရာမှ ပြန်လည်စိစစ်ရန်လိုအပ်ပါသည်၊

(င) စာချုပ်(မူကြမ်း) အပိုဒ် ၂(ခ) ငှားရမ်းခြင်းသက်တမ်းတွင် "ကနဦးနှစ်(၅၀) ငှားရမ်းပြီး တစ်ကြိမ်လျှင်(၁၀)နှစ်ဖြင့် သက်တမ်းနှစ်ကြိမ်အထိ တိုးမြှင့်၍ စုစုပေါင်းနှစ်(၇၀)အထိငှားရမ်းမည်ဖြစ်ပါသည်။" ဟုဖော်ပြထားပါသည်။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၂၅ တွင် "ကော်မရှင်သည် ပုဒ်မ ၂၄ အရ ခွင့်ပြုထားသော သက်တမ်းကုန်ဆုံးပြီးနောက် ဆက်လက်လုပ်ကိုင်လိုသော ရင်းနှီးမြှုပ်နှံသူအား ရင်းနှီးမြှုပ်နှံမှုပမာဏနှင့် လုပ်ငန်း အမျိုးအစားအပေါ် မူတည်၍ တစ်ဆက်တည်းသက်တမ်းတိုးခွင့် ၁၀ နှစ် နှစ်ကြိမ်တိုးမြှင့်ပေးနိုင်သည်။" ဟုပြဋ္ဌာန်းထားရာ ငှားရမ်းခြင်းသက်တမ်းတိုးမြှင့်ရန်အတွက် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရန်လိုအပ်ပါသည်ဟု ယူဆပါသဖြင့် မင်နီဖြင့် ပြင်ဆင်ပေးလိုက်ပါသည်၊

(စ) စာချုပ်(မူကြမ်း) အပိုဒ် ၂(ဃ)တွင် ရင်းနှီးမြှုပ်နှံမှုပမာဏအား ကွက်လပ်ဖြင့် ဖော်ပြထားရာ စာချုပ်ချုပ်ဆိုချိန်၌ ပြည့်စုံစွာဖြည့်စွက်ပြီးဖြစ်ရန် လိုအပ်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း) အပိုဒ် ၃(က)တွင် "ပထမနှစ်အတွက် ငှားရမ်းခကို အငှားချထားခြင်းခံရသူ (လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ)က ---------- လုပ်ငန်းကို စီးပွားဖြစ်စတင်လုပ်ကိုင်သော နေ့ရက်မှစ၍ တွက်ချက်ပေးဆောင်ရမည်" ဟု ဖော်ပြထားသော်လည်း စီးပွားဖြစ်စတင်လုပ်ကိုင်သောနေ့ရက်သည် မည်သည့်အချိန်တွင် စတင်လုပ်ကိုင်မည်ဖြစ်ကြောင်း စာချုပ်(မူကြမ်း)တွင် ဖော်ပြထားသည်ကို မတွေ့ရှိရပါ။ ထို့ပြင် တည်ဆောက်ရေးကာလစေ့ရောက်သည်အထိ လုပ်ငန်းကိုစီးပွားဖြစ်စတင်လုပ်ကိုင်နိုင်ခြင်း မရှိသေးပါက ငှားရမ်းခရရှိမည်

ပေးသွင်းခဲ့သည်ကို ထည့်သွင်းဖော်ပြသင့်ပါသည်။ ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း) အပိုဒ် ၃(င)(၁)တွင် "မြေအသုံးချမှုပရီမီယံကြေးအဖြစ် မြန်မာငွေကျပ်သိန်းပေါင်းတစ်သောင်း" ဟုဖော်ပြထားပြီး အပိုဒ် ၃(င)(၂) တွင် "သတ်မှတ်သည့်စုစုပေါင်းပေးသွင်းရမည့် ပရီမီယံကြေးငွေပမာဏကို အမှန်တကယ်အသုံးပြုနိုင်မည့် မြေဧရိယာပေါ်တွင် နှစ်ဖက်သဘောတူတွက် ချက်သတ်မှတ်နိုင်ကြောင်း ဖော်ပြထားရာ စည်းကမ်းချက်ချင်းကိုက်ညီမှု မရှိကြောင်း တွေ့ရှိရပါသဖြင့် ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ည) စာချုပ်(မူကြမ်း) အပိုဒ် ၄(က)(၄)တွင် ဖော်ပြထားသော အငှားချထားသူ (လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ)က အတည်ပြုသည့် Master Plan အား စာချုပ်တွင် နောက်ဆက်တွဲအဖြစ် ဖော်ပြရန်လိုအပ်ပါသည်။ ဌာနမှ လုပ်ငန်းလိုအပ်ချက်နှင့်အညီ လက်ခံနိုင်ခြင်းရှိ မရှိ ကြိုတင်စိစစ်သင့်ပါသည်၊

(ဋ) စာချုပ်(မူကြမ်း) အပိုဒ် ၄(ခ)(၁)တွင် အငှားချထားခြင်းခံရသူ (လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ)အနေဖြင့် BOT လုပ်ငန်းလုပ်ကိုင်ရန် ခွင့်ပြုသည့်ကာလကုန်ဆုံးပါက BOT လုပ်ငန်းကို လိုအပ်သောခွင့်ပြုချက်များဖြင့် BOO စနစ်သို့ ပြောင်းလဲဆောင်ရွက်ခွင့်ပြုရန် လျှောက်ထားနိုင်ကြောင်း ဖော်ပြထားသည်ကို ဌာနက လက်ခံနိုင်ခြင်းရှိ မရှိ နှင့် လက်ခံရန်သင့် မသင့် ပြန်လည်စိစစ်သင့်ပါသည်၊

(ဌ) စာချုပ်(မူကြမ်း) အပိုဒ် ၄(ဈ)တွင် အငှားချထားခြင်းခံရသူ (လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ)သည် စီမံကိန်းလုပ်ငန်းအတွက် လိုအပ်သော ငွေကြေးကို ပြည်တွင်း ပြည်ပဘဏ် သို့မဟုတ် ငွေရေးကြေးရေးအဖွဲ့အစည်းတို့ထံမှ ချေးငွေရယူပြီး ဆောင်ရွက်ခွင့်ရှိကြောင်း ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ ထိုသို့

ဈေးငွေရယူမည့်ကိစ္စနှင့်စပ်လျဉ်း၍ အငှားချထားသူ (မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့)၏ ခွင့်ပြုချက်ရယူသင့်ပါသည်။ ဌာနက ပြန်လည်စိစစ်သင့်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း) အပိုဒ် ၅ တွင် ဖော်ပြထားသည့် အငှားချထားသူ (လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ)၏ တာဝန်နှင့်ဝတ္တရားများတွင် ဖော်ပြထားသော အငှားချထားသူမှ ဆောင်ရွက်ရမည့်တာဝန်များနှင့် စပ်လျဉ်း၍ ဆောင်ရွက်နိုင်ခြင်း ရှိမရှိ ပြန်လည်စိစစ်သင့်ပါသည်။ ထို့ပြင် အခြားဝန်ကြီးဌာနများနှင့် သက်ဆိုင်သောကိစ္စရပ်များလည်းပါရှိနေပါသဖြင့် သက်ဆိုင်ရာဌာနများနှင့် ကြိုတင်ညှိနှိုင်းဆောင်ရွက်ထားသင့်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း) အပိုဒ် ၅(င)တွင် "မြေယာပိုင်ဆိုင်မှုနှင့် ပတ်သက်၍ ပေါ်ပေါက်လာမည့် အရှုပ်အရှင်းများနှင့် တောင်းဆိုမှုများကို တာဝန်ယူဖြေရှင်းဆောင်ရွက်ပေးရပါမည်။ စီမံကိန်းလုပ်ငန်းနှင့်ဖြစ်စေ၊ တည်ဆောက်မည့်မြေယာနှင့်ဖြစ်စေ ဆက်စပ်၍ ဖြစ်ပေါ်လာနိုင်သော ပြည်သူလူထုနှင့် ပတ်သက်သည့်အငြင်းပွားကိစ္စများ၊ လုံခြုံရေးဆိုင်ရာကိစ္စများ၊ အုပ်ချုပ်ရေးဆိုင်ရာကိစ္စများကို ဒေသဆိုင်ရာအုပ်ချုပ်ရေးနှင့် လုံခြုံရေးတာဝန်ရှိဌာနအဖွဲ့အစည်းများနှင့် ညှိနှိုင်းဆောင်ရွက်ဖြေရှင်းပေးရမည်" ဟုဖော်ပြထားရာ ဌာနက သတိပြုသင့်ပါသည်။ ထို့ပြင် အဆိုပါစည်းကမ်းချက်နှင့် စပ်လျဉ်း၍ ၂၀၁၂ ခုနှစ်တွင် ပြည်ထောင်စု လွှတ်တော်ဥပဒေအမှတ် ၂၁ ဖြင့် ပြဋ္ဌာန်းခဲ့သော နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၆ တွင် "ကော်မရှင်သည် နိုင်ငံတော်နှင့် နိုင်ငံသားတို့၏ လုံခြုံရေးအခြေအနေ၊ စီးပွားရေးအခြေအနေ၊ ပတ်ဝန်းကျင်အခြေအနေနှင့် လူမှုအကျိုးစီးပွားကို ကြီးမားစွာ အကျိုးသက်ရောက်မှုဖြစ်စေနိုင်သော နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု လုပ်ငန်းကြီးများကို

ပြည်ထောင်စုအစိုးရအဖွဲ့မှတစ်ဆင့် ပြည်ထောင်စုလွှတ်တော်သို့ တင်ပြရမည်" ဟုပြဋ္ဌာန်းထားသည်ကို သိရှိနိုင်ပါရန် ဖော်ပြအပ်ပါသည်၊

(ဏ) စာချုပ်(မူကြမ်း) အပိုဒ် ၆ စာချုပ်ရုပ်သိမ်းခြင်းတွင် "စာချုပ်ကိုရုပ်သိမ်းခွင့်ရှိစေရမည်" ဟုဖော်ပြထားရာ ၎င်းအစား "ရုပ်သိမ်းနိုင်သည်" ဟုမင်နိုပြင့် ပြင်ဆင်ပေးလိုက်ပါသည်။ ထို့ပြင် အဆိုပါစည်းကမ်းချက်ရှိ စာချုပ်ရုပ်သိမ်းနိုင်သည့် အကြောင်းချင်းရာများ၌ "စာချုပ်သက်တမ်းတုန်ဆုံးခြင်း" စည်းကမ်းချက်ကိုပါထည့်သွင်းဖော်ပြသင့်ပါသည်။ ဌာန၏ လိုအပ်ချက်နှင့် ကိုက်ညီမှုရှိ မရှိ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ဒ) စာချုပ်(မူကြမ်း) အပိုဒ် ၇(က)တွင် အငှားချထားခြင်းခံရသူ(လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ)၏ ပျက်ကွက်မှုကြောင့်မဟုတ်ဘဲ အပိုဒ် ၆(ခ) မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့်သော်လည်းကောင်း၊ အပိုဒ် (ဂ)လုပ်ငန်း၏ မူလရည်မှန်းချက်များကို ဆက်လက်အကောင်အထည်ဖော်နိုင်စွမ်း မရှိတော့လျှင်သော်လည်းကောင်း၊ အပိုဒ်ခွဲ (ဃ) နှစ်ဖက်သဘောတူစာချုပ်ရုပ်သိမ်းလျှင်သော်လည်းကောင်း စာချုပ်ရုပ်သိမ်းသည့်အခါ ပေးသွင်းထားပြီးဖြစ်သော ငှားရမ်းခများကို အသုံးမပြုရသေးသည့်ကာလများအတွက် ငှားရမ်းခအားတွက်ချက်၍ အငှားချထားသူ(လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ)က ပြန်လည်ပေးအပ်ရန်နှင့် တည်ဆောက်တပ်ဆင်ထားသော အဆောက်အဦများ၊ ပစ္စည်းများ၊ ကုန်ကျစရိတ်များအား ပြန်လည်ပေးလျော်ရန် နှစ်ဦးနှစ်ဖက်သဘောတူကြကြောင်း ဖော်ပြထားရာ ဌာနအနေဖြင့် လက်ခံနိုင်ခြင်းရှိ မရှိ ပြန်လည်စိစစ်ရန်လိုအပ်ပါသည်၊

(ဓ) စာချုပ်(မူကြမ်း) အပိုဒ် ၇(ခ)တွင် "အငှားချထားခြင်းခံရသူ(လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ)၏ ဆန္ဒကြောင့်စာချုပ်ပါလုပ်ငန်းကို ဆက်လက်မဆောင်ရွက်လိုသောအကြောင်းကိုဖော်ပြ၍ စာချုပ်ရုပ်သိမ်းကြောင်း အကြောင်းကြားစာပို့ပြီးမှ စာချုပ်ရုပ်သိမ်းခွင့်ရှိသည်" ဟုလည်းကောင်း၊ အပိုဒ် ၇(ဂ)တွင် "အငှားချ

ထားခြင်းခံရသူ (လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ) ၏ဆန္ဒကြောင့် စာချုပ်ပါလုပ်ငန်းကို ဆက်လက်မဆောင်ရွက်လိုသောအကြောင်းဖြင့် စာချုပ်ရုပ်စဲလိုပါက ----------" ဟုလည်းကောင်း ဖော်ပြထားရာ အငှားချထားခြင်းခံရသူ (လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ) မှ ၎င်း၏ဆန္ဒအရ စာချုပ်အားရုပ်စဲလိုပါက အကြောင်းကြားစာပို့ပြီး ရုပ်စဲနိုင်သည့် သဘောသက်ရောက်နေပါသည်။ ထို့ပြင် စာချုပ်(မူကြမ်း) အပိုဒ် (၆)၏ အပိုဒ်ခွဲ (က)မှ(ဃ)တွင် စာချုပ်ရုပ်စဲနိုင်သည့်အခါက အကြောင်းချင်းရာများအား ဖော်ပြထားရာ စာချုပ်(မူကြမ်း) အပိုဒ် ၇(ခ)နှင့် (ဂ) ပါစည်းကမ်းချက်နှင့် ညီညွတ်မှုမရှိဘဲ ကွဲလွဲနေသည်ဟု ယူဆပါသည်။ သို့ဖြစ်ပါ၍ အပိုဒ်ခွဲ ၇(ခ)နှင့်(ဂ)ပါ စည်းကမ်းချက်များအား ပယ်ဖျက်သင့်ပါသည်။ သို့ရာတွင် စာချုပ်ရုပ်စဲခြင်းကိစ္စရပ်တွင် စာချုပ်(မူကြမ်း) အပိုဒ် ၆(က)မှ (ဃ)အထိ ဖော်ပြထားသော အကြောင်းချင်းရာကိစ္စတစ်ခုခုကြောင့် စာချုပ်ရုပ်စဲမည်ဆိုပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပြီးနောက်မှသာ စာချုပ်ရုပ်စဲခြင်းသည် အကျိုးသက်ရောက်မှုရှိစေရမည်ဟု ဖော်ပြသင့်ပါကြောင်း အကြံပြုအပ်ပါသည်။ ဌာနက ပြန်လည်စိစစ်ရန်လိုအပ်ပါသည်၊

(န) စာချုပ်(မူကြမ်း) အပိုဒ် ၁၆ တွင် စာပေးစာယူပြုလုပ်ရာ၌ မြန်မာဘာသာသို့မဟုတ် အင်္ဂလိပ်ဘာသာဖြင့် ရေးသား၍ အချင်းချင်းဆက်သွယ်မည်ဖြစ်ကြောင်း ဖော်ပြထားရာ ဖွဲ့စည်းပုံအခြေခံဥပဒေပုဒ်မ ၄၅၀ အရ ရုံးသုံးဘာသာစကားမှာ မြန်မာဘာသာဖြစ်ပြီး တစ်ဖက်စာချုပ်ဝင်ကုမ္ပဏီသည် မြန်မာနိုင်ငံသားဖြစ်သဖြင့် မြန်မာဘာသာဖြင့်သာ ဆက်သွယ်အကြောင်းကြားသင့်သည်ဟု ယူဆပါသည်။ ဌာနက ပြန်လည်စိစစ်သင့်ပါသည်၊

(ပ) စာချုပ်(မူကြမ်း)တွင် မြေသို့ပြန်လည်ဝင်ရောက်ပိုင်ခွင့် စည်းကမ်းချက်ပေါ်ရှိ သဖြင့် မင်နီဖြင့် ရေးသားပေးလိုက်ပါသည်။ ၎င်းနှင့် ပြန်လည်စိစစ်သင့်ပါ သည်၊

(ဖ) လိုအပ်သောနေရာများတွင် မင်နီဖြင့် ပြင်ဆင်၊ ဖြည့်စွက်ပေးလိုက်ပါသည်။

၅။ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်ဥပဒေပုဒ်မ ၇၄ ၌ "မည်သူမျှ လုပ်ငန်းလိုင်စင်မရှိဘဲ ဆိပ်ကမ်းနယ်နိမိတ်အတွင်း ဆိပ်ကမ်းတံတားတစ်မျိုးမျိုးကိုသော်လည်းကောင်း၊ သင်္ဘောကျင်း၊ ရေလုံ သင်္ဘောကျင်းနှင့် လွှန်းလမ်းတစ်မျိုးမျိုးကိုသော်လည်းကောင်း တည်ဆောက်ခြင်း သို့မဟုတ် ထုတ်ကိုင် ခြင်းမပြုရ။" ဟုပြဋ္ဌာန်းထားပါသည်။ သို့ပါ၍ ပဋိညာဉ်စာချုပ်(မူကြမ်း)ပါ ဆောင်ရွက်မည့်ကိစ္စရပ် များနှင့်စပ်လျဉ်း၍ အဆိုပါဥပဒေပုဒ်မ ၇၂ (က)အရ လုပ်ငန်းလိုင်စင်လျှောက်ထားရယူရန် လိုအပ် ပါသည်။

၆။ တံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ ၉ အရအစိုးရ တံဆိပ်ခေါင်းခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်မရှိသေးလျှင် တံဆိပ်ခေါင်းအက်ဥပဒေအရ ကျသင့်သောတံဆိပ်ခေါင်းခွန်ကို အငှားချထား ခြင်းခံရသူ (လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ) Mandalay Dry Port Co., Ltd က ထမ်းဆောင်ရမည်ဖြစ် ပါသည်။

၇။ ဤစာချုပ်(မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရ သာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင် မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များ နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြုပါသည်။

၈။ Mandalay Dry Port Co., Ltd သည် ဥပဒေအရ တရားဝင်ဖွဲ့စည်းထားသောကုမ္ပဏီ ဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်နိုင်ခွင့်နှင့် လုပ်ကိုင်နိုင်စွမ်းရှိ မရှိ၊ ငွေကြေးအင်အား ပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင်လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်းခံရသူဟုတ် မဟုတ် စသည့်အချက်များနှင့် စပ်လျဉ်း၍ ကြိုတင်စိစစ်ရန်လိုအပ်မည်ဖြစ်ပါ သည်။

၉။ ဤစာချုပ်(မူကြမ်း)ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံးသို့ စာချုပ်မိတ္တူ(၃)စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၁၀။ ဤအကြံပြုချက်ကို လျှို့ဝှက်အဆင့်သတ်မှတ်ဆောင်ရွက်ရန်ဖြစ်ပါသည်။

( ကျော်ဆန်း )

ညွှန်ကြားရေးမှူးချုပ်(တာဝန်)

မန္တလေးတိုင်းဒေသကြီးဥပဒေချုပ်ရုံး

မိတ္တူ - ရုံးလက်ခံ / မျှောစာတွဲ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မန္တလေးတိုင်းဒေသကြီးဥပဒေချုပ်ရုံး
# မန္တလေးမြို့

စာအမှတ်၊ ၉ (၂) ၁ / ၂ ( ၀၃၉ )

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ဖေဖော်ဝါရီလ ၃ ရက်

သို့

ဝန်ကြီး

လမ်းပန်းဆက်သွယ်ရေးဌာန

မန္တလေးမြို့

အကြောင်းအရာ။ ပလိပ်သစ်ဆိပ်အား ( Dry Port )ကုန်သေတ္တာစခန်းနှင့် လုပ်ငန်းများအား BOT စနစ်ဖြင့် လုပ်ကိုင်ဆောင်ရွက်ရန် အတွက် ချုပ်ဆိုမည့် ငှားရမ်းခြင်း သဘောတူ စာချုပ် (မူကြမ်း) အပေါ် သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ

ရည် ညွှန်း ချက်။

(၁) မန္တလေးတိုင်းဒေသကြီးအစိုးရ၊ လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန၊ မန္တလေးမြို့၏ ၇-၁-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ၉၆/၂၀၀၀ (၅)/ (Dry Port) / ၂၀၁၅ (၅၃၁)

(၂) မန္တလေးတိုင်းဒေသကြီးဥပဒေချုပ်ရုံး၏ ၁၅-၁၂-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ၉ (၂) ၀/၁ (၁၃၀)

(၃) ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ ၁၁-၁-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ၂ (၅) ၇-၃/နပတ (၂၀)

၁။ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ပိုင် မန္တလေးတိုင်းဒေသကြီး၊ စဉ့်ကိုင်မြို့နယ် အတွင်းရှိ ပလိပ်သစ်ဆိပ်မြေဧရိယာ (၁၄. ၀၅) ဧကပေါ်တွင် ( Dry Port ) ကုန်သေတ္တာစခန်းနှင့် လုပ်ငန်းများအား BOT စနစ်ဖြင့် လုပ်ကိုင်ရန်အတွက် မန္တလေးတိုင်းဒေသကြီးအစိုးရ၊ လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန Mandalay Dry Port Co.,Ltd တို့အကြား ချုပ်ဆိုမည့် ငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း)အား မန္တလေးတိုင်းဒေသကြီး ဥပဒေချုပ်ရုံးသို့ ရည်ညွှန်းချက် (၁)ပါစာဖြင့် ပေးပို့တင်ပြလာ၍ မန္တလေးတိုင်းဒေသကြီးဥပဒေချုပ်ရုံးက ရည်ညွှန်းချက် (၂)ပါစာဖြင့် ဥပဒေလမ်းညွှန်မှုများ ပြုနိုင်ပါရန် ပေးပို့ခဲ့၍ ပြည်ထောင်စုရှေ့နေချုပ်ရုံးက ရည်ညွှန်းချက် (၃)ပါစာဖြင့် အောက်ပါအတိုင်း ပြန်ကြားလာပါသည်။

၂။ ရည်ညွှန်းချက် (၁)ပါစာနှင့်အတူ MOU အား ပေးပို့လာရာ ပေးပို့လာသော MOU မှာ ပလိပ်သစ်ဆိပ်တွင် ( Dry Port ) ကုန်းတွင်းတုန်တင် ကွန်တိန်နာစခန်း စီမံတိန်းဆောင်ရွက်ရန် အတွက် စာချုပ်ဝင်များအကြား နှစ်ဦးနှစ်ဖက် နားလည်မှုစာချွန်လွှာ အဖြစ် ၁၂-၈-၂၀၁၅ ရက်နေ့တွင် လက်မှတ်ရေးထိုးခဲ့သည့် MOU တစ်ရပ်သာဖြစ်ကြောင်း ဖော်ပြအပ်ပါသည်။

(က) စာချုပ် (မူကြမ်း) တွင် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ပိုင် မြေအားငှားရမ်း၍ ကုန်းတွင်းကွန်တိန်နာ Dry Port ကို တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်း (BOT) စာချုပ် (မူကြမ်း)ကိုသာ ပေးပို့ခဲ့ပြီး မြေငှားစာချုပ် (မူကြမ်း) မပါရှိပါ။ မြေငှားစာချုပ် အား သီးခြားချုပ်ဆိုရန် လိုအပ်ပါသည်။ ထို့ပြင် မြေငှားစာချုပ်ပါ စည်းကမ်းချက် များသည် (BOT) စာချုပ် (မူကြမ်း)ပါ စည်းကမ်းချက်များနှင့်ညီညွတ်ရန် လိုအပ်ပါသည်၊

( ခ) စာချုပ် (မူကြမ်း)၏ စာချုပ်ဝင်အပိုဒ်တွင် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့အား အငှားချထားသူ (လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ)ဟုလည်းကောင်း၊ Mandalay Dry Port Co.,Ltd အား အငှားချထားခြင်းခံရသူ (လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ)ဟု လည်းကောင်း ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ BOT စာချုပ် (မူကြမ်း)ဖြစ်၍ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့အား လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ ဟုလည်းကောင်း၊ Mandalay Dry Port Co.,Ltd အား လုပ်ငန်းလုပ်ကိုင်ခွင့်ရသူဟု လည်းကောင်း သုံးစွဲသင့်ပါသည်။ အငှားချထားသူ၊ အငှားချထားခြင်းခံရသူ ဆိုသည့်စကားရပ်များမှာ မြေငှားစာချုပ်၌သာ သုံးစွဲသင့်ပါသဖြင့် ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

( ဂ) စာချုပ် (မူကြမ်း)၏ စာချုပ်ဝင်အပိုဒ်အောက်ရှိ အဓိပ္ပါယ်ဖွင့်ဆိုချက် ခေါင်းစဉ်ပါ အပိုဒ် ၁ (ခ)တွင် ငှားရမ်းမည့်မြေဧရိယာ (၁၄. ၀၅)ဧကအား နောက်ဆက်တွဲ မြေပုံဖြင့် ဖော်ပြထားသည်ဟုလည်းကောင်း၊ စာချုပ် (မူကြမ်း)အပိုဒ် ၁တွင် "နောက်ဆက်တွဲများ"ဟုလည်းကောင်း၊ အပိုဒ် ၂ (က)တွင် "ဤစာချုပ်၏ ပူးတွဲမြေပုံ ကြမ်းတွင် -------" ဟုလည်းကောင်း၊ အပိုဒ် ၁၈ တွင် "ဤစာချုပ်တွင်ပါရှိသည့် ဝရန်စာချုပ်မိတ္တူ၊ မြေပုံ ------- ဤသဘောတူစာချုပ်၏ တစ်စိတ်တစ်ဒေသ ဖြစ်သည်"ဟုလည်းကောင်း ဖော်ပြထားသော်လည်း စာချုပ် (မူကြမ်း)၌ နောက်ဆက်တွဲများ ပူးတွဲပါရှိလာခြင်းမရှိပါ။ နောက်ဆက်တွဲများသည် စာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်သဖြင့် စာချုပ်ချုပ်ဆိုချိန်တွင် ပြည့်စုံစွာပူးတွဲပြီးဖြစ်ရန် လိုအပ်ပါသည်။ ထို့ပြင် အဆိုပါမြေပုံသည် သက်ဆိုင်ရာဌာနမှ တရားဝင်ရေးဆွဲပေး သော မြေပုံဖြစ်ရန် လိုအပ်ပါသည်၊ ဌာနက ပြန်လည်စိစစ်သင့်ပါသည်၊

(ဃ) စာချုပ် (မူကြမ်း) အပိုဒ် ၁ အား အဓိပ္ပါယ်ဖွင့်ဆိုချက် ခေါင်းစဉ်ဖြင့်လည်းကောင်း၊ အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း ခေါင်းစဉ်ဖြင့်လည်းကောင်း ဖော်ပြထားရာ စာချုပ် (မူကြမ်း)ပါ စည်းကမ်းချက်အပိုဒ် အမှတ်စဉ်များထပ်နေ၍ အမှတ်စဉ်လိုက် မှန်ကန်စွာ ဖော်ပြနိုင်ရေးအတွက် ဌာနမှ တာဝန်ယူစိစစ်ရန် လိုအပ်ပါသည်။ ထို့ပြင် အပိုဒ် (၁) အဓိပ္ပါယ်ဖွင့်ဆိုချက်၊ အပိုဒ်ခွဲ (ဇ)တွင် "စီမံကိန်းတည်ဆောက်ရေး ကာလဆိုသည်မှာ ဤစာချုပ်၏စာပိုဒ် ၉ တွင် ဖော်ပြသတ်မှတ်ထားသည့် မလွန်ဆန် မတားဆီးနိုင်သော ဖြစ်ရပ်များမှအပ -------- ကာလကိုဆိုလိုသည်"ဟု ဖော်ပြထား သည်ကို တွေ့ရှိရပါသည်။ ယင်းစည်းကမ်းချက်ပါ ရည်ညွှန်းစာပိုဒ် ၉ မှာ စာချုပ်အကျိုးသက်ရောက်မည့်နေ့နှင့် သက်ဆိုင်သည့် စည်းကမ်းချက်ဖြစ်၍ ရည်ညွှန်းစာပိုဒ်များ မှန်ကန်မှုရှိစေရေးအတွက် ဌာနမှ ပြန်လည်စိစစ်ရန် လိုအပ်ပါ သည်၊

(င) စာချုပ် (မူကြမ်း)အပိုဒ် ၂ (ခ) ငှားရမ်းခြင်း သက်တမ်းတွင် " ကနဦးနှစ် (၅၀) ငှားရမ်းပြီး တစ်ကြိမ်လျှင် (၁၀)နှစ်ဖြင့် သက်တမ်းနှစ်ကြိမ်အထိ တိုးမြှင့်၍ စုစုပေါင်း နှစ် (၇၀)အထိ ငှားရမ်းမည်ဖြစ်ပါသည်။"ဟု ဖော်ပြထားပါသည်။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၂၅ တွင် "ကော်မရှင်သည် ပုဒ်မ ၂၄ အရ ခွင့်ပြုထားသော သက်တမ်းကုန်ဆုံးပြီးနောက် ဆက်လက်လုပ်ကိုင်လိုသော ရင်းနှီးမြှုပ်နှံသူအား ရင်းနှီး မြှုပ်နှံမှုပမာဏနှင့် လုပ်ငန်းအမျိုးအစားအပေါ် မူတည်၍ တစ်ဆက်တည်း သက်တမ်းတိုးခွင့် ၁၀ နှစ် နှစ်ကြိမ်တိုးမြှင့်ပေးနိုင်သည်"ဟု ပြဋ္ဌာန်းထားရာ ငှားရမ်းခြင်း သက်တမ်းတိုးမြှင့်ရန်အတွက် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ရန်လိုအပ်ပါသည်ဟု ယူဆပါသဖြင့် မင်နီဖြင့် ပြင်ဆင်ပေး လိုက်ပါသည်၊

(စ) စာချုပ် (မူကြမ်း) အပိုဒ် ၂ (ဃ)တွင် ရင်းနှီးမြှုပ်နှံမှုပမာဏအား ကွက်လပ်ဖြင့် ဖော်ပြထားရာ စာချုပ်ချုပ်ဆိုချိန်၌ ပြည့်စုံစွာဖြည့်စွက်ပြီးဖြစ်ရန် လိုအပ်ပါသည်၊

(ဆ) စာချုပ် (မူကြမ်း) အပိုဒ် ၃ (က)တွင် "ပထမနှစ်အတွက် ငှားရမ်းခကို အငှားချထား ခြင်းခံရသူ (လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ)က ------ လုပ်ငန်းကို စီးပွားဖြစ်စတင် လုပ်ကိုင် သော နေ့ရက်မှစ၍ တွက်ချက်ပေးဆောင်ရမည်"ဟု ဖော်ပြထားသော်လည်း စီးပွားဖြစ်စတင်လုပ်ကိုင်သော နေ့ရက်သည် မည်သည့်အချိန်တွင် စတင်လုပ်ကိုင်မည် ဖြစ်ကြောင်း စာချုပ် (မူကြမ်း) တွင် ဖော်ပြထားသည်ကို မတွေ့ရှိရပါ။ ထို့ပြင် တည်ဆောက်ရေးကာလစေ့ရောက်သည်အထိ လုပ်ငန်းကို စီးပွားဖြစ်စတင်လုပ်ကိုင်

နိုင်ခြင်း မရှိသေးပါက ငှားရမ်းခရရှိမည်မဟုတ်ကြောင်း သဘောသက်ရောက်နေပါသည်။ စီးပွားဖြစ်စတင်လုပ်ကိုင်သော နေ့ရက်အား အဓိပ္ပါယ်ဖွင့်ဆိုချက်ခေါင်းစဉ်၌ ထည့်သွင်းဖော်ပြသင့်ပါသည်။ ဌာနက ပြန်လည်စိစစ်သင့်ပါသည်၊

( ဆ) စာချုပ် (မူကြမ်း) အပိုဒ် ၃ (ခ)တွင် နှစ်စဉ်မြေငှားရမ်းခအား ကွက်လပ်ဖြင့် ဖော်ပြထားရာ စာချုပ်ချုပ်ဆိုချိန်၌ ပြည့်စုံစွာဖော်ပြပြီးဖြစ်ရန် လိုအပ်ပါသည်။ထို့ပြင် အဆိုပါအပိုဒ်၌ အသုံးပြုမည့် မြေအကျယ်အဝန်းသည် (၁၄. ၀၅)ဧကဖြစ်ပါက "ဟုလည်းကောင်း၊ အပိုဒ် ၃(င)၊ (၂)တွင် "အမှန်တကယ်အသုံးပြုနိုင်မည့် မြေဧရိယာ" ဟုလည်းကောင်း ဖော်ပြထားရာ မည်သည့်မြေဧရိယာကို ဆိုလိုကြောင်း ရှင်းလင်းတိကျမှုမရှိပါ။ စာချုပ် (မူကြမ်း) အပိုဒ် ၂ (က)တွင် ငှားရမ်းသည့် မြေတည်နေရာအား "မန္တလေးတိုင်းဒေသကြီး၊ စဉ့်ကိုင်မြို့နယ်အတွင်းရှိ မြေဧရိယာ (၁၄. ၀၅)ဧက" ဟုဖော်ပြထားသဖြင့် ငှားရမ်းသည့် မြေအကျယ်အဝန်းဖော်ပြချက်များ ကွဲလွဲမှုမရှိစေရေးနှင့် မှန်ကန်တိကျစေရေးအတွက် ဌာနက ပြန်လည်စိစစ်ရန် လိုအပ်ပါသည်၊

( ဈ) စာချုပ် (မူကြမ်း)အပိုဒ် ၃ (ဃ)တွင် ငှားရမ်းခပေးသွင်းရမည့် ရက်အား ကွက်လပ်ဖြင့်ဖော်ပြထားရာ စာချုပ်ချုပ်ဆိုချိန်၌ ပြည့်စုံစွာဖြည့်စွက်ပြီးဖြစ်ရန် လိုအပ်ပါသည်။ ထို့ပြင် ယင်းသတ်မှတ်ရက်ထက် နောက်ကျပေးသွင်းခဲ့ပါက ဌာနမှ မည်သို့အရေးယူဆောင်ရွက်မည်ကို ဖော်ပြရန်သင့် မသင့် ဌာနလိုအပ်ချက်နှင့် အညီ ပြန်လည်စိစစ်သင့်ပါသည်၊

(ည) စာချုပ် (မူကြမ်း) အပိုဒ် ၃ (င) (၁)တွင် "မြေအသုံးချမှုပရီမီယံကြေးအဖြစ် မြန်မာကျပ်ငွေ ကျပ်သိန်းပေါင်းတစ်သောင်းအနက် ၂၀% ဖြစ်သော ငွေကျပ်သိန်းနှစ်ထောင်ကို အငှားချထားသူ (လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ)၏ ဘဏ်ငွေ စာရင်းသို့ပေးသွင်းပြီးဖြစ်ကြောင်း ဖော်ပြထားရာ မည်သည့်အချိန်ကာလက ပေးသွင်းခဲ့သည်ကို ထည့်သွင်းဖော်ပြသင့်ပါသည်။ ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

( ဋ) စာချုပ် (မူကြမ်း) အပိုဒ် ၃ (င) (၁)တွင် "မြေအသုံးချမှု ပရီမီယံကြေးအဖြစ် မြန်မာငွေကျပ်သိန်းပေါင်း တစ်သောင်း" ဟုဖော်ပြထားပြီး အပိုဒ် ၃ (င) (၂)တွင် "သတ်မှတ်သည့်စုစုပေါင်း ပေးသွင်းရမည့် ပရီမီယံကြေးငွေပမာဏကို အမှန်တကယ် အသုံးပြုနိုင်မည့် မြေဧရိယာပေါ်တွင် နှစ်ဖက်သဘောတူ တွက်ချက်သတ်မှတ်နိုင်ကြောင်း ဖော်ပြထားရာ စည်းကမ်းချက်ချင်း တိုက်ညီမှုမရှိကြောင်း တွေ့ရှိရပါသဖြင့် ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ဌ) စာချုပ် (မူကြမ်း) အပိုဒ် ၄ (က) (၄)တွင် ဖော်ပြထားသော အငှားချထားသူ (လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ) က အတည်ပြုသည့် Master Plan အား စာချုပ်တွင် နောက်ဆက်တွဲအဖြစ် ဖော်ပြရန်လိုအပ်ပါသည်။ ဌာနမှ လုပ်ငန်းလိုအပ်ချက် နှင့်အညီ လက်ခံနိုင်ခြင်း ရှိ မရှိ ကြိုတင်စိစစ်သင့်ပါသည်၊

(ဍ) စာချုပ် (မူကြမ်း)အပိုဒ် ၄ (ခ) (၁)တွင် အငှားချထားခြင်းခံရသူ (လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ)အနေဖြင့် BOT လုပ်ငန်းလုပ်ကိုင်ရန် ခွင့်ပြုသည့် ကာလကုန်ဆုံးပါက BOT လုပ်ငန်းကို လိုအပ်သော ခွင့်ပြုချက်များဖြင့် BOO စနစ်သို့ ပြောင်းလဲဆောင်ရွက်ခွင့်ပြုရန် လျှောက်ထားနိုင်ကြောင်း ဖော်ပြထားသည်ကို ဌာနက လက်ခံနိုင်ခြင်းရှိ မရှိနှင့် လက်ခံရန်သင့် မသင့် ပြန်လည်စိစစ်သင့်ပါသည်၊

(ဎ) စာချုပ် (မူကြမ်း) အပိုဒ် ၄ (ဈ)တွင် အငှားချထားခြင်းခံရသူ (လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ)သည် စီမံကိန်းလုပ်ငန်းအတွက် လိုအပ်သော ငွေကြေးကို ပြည်တွင်းပြည်ပဘဏ်သို့မဟုတ် ငွေရေးကြေးရေးအဖွဲ့အစည်းတို့ထံမှ ချေးငွေရယူပြီး ဆောင်ရွက်ခွင့်ရှိကြောင်း ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ ထိုသို့ ချေးငွေရယူမည့်ကိစ္စနှင့်စပ်လျဉ်း၍ အငှားချထားသူ (မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့)၏ ခွင့်ပြုချက်ရယူသင့်ပါသည်။ ဌာနက ပြန်လည်စိစစ်သင့်ပါသည်၊

(ဏ) စာချုပ် (မူကြမ်း) အပိုဒ် ၅ တွင် ဖော်ပြထားသည့် အငှားချထားသူ (လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ)၏ တာဝန်နှင့်ဝတ္တရားများတွင် ဖော်ပြထားသော အငှားချထားသူမှ ဆောင်ရွက်ရမည့် တာဝန်များနှင့် စပ်လျဉ်း၍ ဆောင်ရွက်နိုင်ခြင်း ရှိ မရှိ ပြန်လည်စိစစ်သင့်ပါသည်၊ ထို့ပြင် အခြားဝန်ကြီးဌာနများနှင့် သက်ဆိုင်သောကိစ္စရပ်များလည်း ပါရှိနေပါသဖြင့် သက်ဆိုင်ရာဌာနများနှင့် ကြိုတင်ညှိနှိုင်း ဆောင်ရွက်ထားသင့်ပါသည်၊

(တ) စာချုပ် (မူကြမ်း) အပိုဒ် ၅ (င)တွင် "မြေယာပိုင်ဆိုင်မှုနှင့် ပတ်သက်၍ ပေါ်ပေါက်လာမည့် အရှုပ်အရှင်းများနှင့် တောင်းဆိုမှုများကို တာဝန်ယူဖြေရှင်း ဆောင်ရွက်ပေးရပါမည်။ စီမံကိန်းလုပ်ငန်းနှင့် ဖြစ်စေ၊ တည်ဆောက်မည့်မြေယာနှင့် ဖြစ်စေ ဆက်စပ်၍ ဖြစ်ပေါ်လာနိုင်သော ပြည်သူလူထုနှင့် ပတ်သက်သည့် အငြင်းပွားကိစ္စများ၊ လုံခြုံရေးဆိုင်ရာကိစ္စများ၊ အုပ်ချုပ်ရေးဆိုင်ရာ ကိစ္စများကို ဒေသဆိုင်ရာ အုပ်ချုပ်ရေးနှင့် လုံခြုံရေးတာဝန်ရှိ ဌာနအဖွဲ့အစည်းများနှင့် ညှိနှိုင်းဆောင်ရွက် ဖြေရှင်းပေးရမည်" ဟု ဖော်ပြထားရာ ဌာနက သတိပြုသင့်ပါသည်။ ထို့ပြင် အဆိုပါစည်းကမ်းချက်နှင့်စပ်လျဉ်း၍ ၂၀၁၂ခုနှစ်တွင် ပြည်ထောင်စုလွှတ်တော် ဥပဒေအမှတ် ၂၁

ဖြင့် မြှဌာန်းခဲ့သော နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၆ တွင် "ကော်မရှင်သည် နိုင်ငံတော်နှင့် နိုင်ငံသားတို့၏ လုံခြုံရေးအခြေအနေ၊ စီးပွားရေးအခြေအနေ၊ ပတ်ဝန်းကျင်အခြေအနေနှင့် လူမှုအကျိုးစီးပွားကို ကြီးမားစွာ အကျိုးသက်ရောက်မှုဖြစ်စေနိုင်သော နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု လုပ်ငန်းကြီးများကို ပြည်ထောင်စုအစိုးရအဖွဲ့မှတစ်ဆင့် ပြည်ထောင်စုလွှတ်တော်သို့ တင်ပြရမည်" ဟု ပြဋ္ဌာန်းထားသည်ကို သိရှိနိုင်ပါရန် ဖော်ပြအပ်ပါသည်၊

(ထ) စာချုပ် (မူကြမ်း) အပိုဒ် ၆ စာချုပ်ရုပ်သိမ်းခြင်းတွင် "စာချုပ်ကိုရုပ်စဲခွင့် ရှိစေရမည်" ဟု ဖော်ပြထားရာ ၎င်းအစား "ရုပ်စဲနိုင်သည်" ဟု မင်နီဖြင့် ပြင်ဆင်ပေးလိုက်ပါသည်။ ထို့ပြင် အဆိုပါစည်းကမ်းချက်ရှိ စာချုပ်ရုပ်စဲနိုင်သည့် အကြောင်းချင်းရာများ၌ "စာချုပ်သက်တမ်းကုန်ဆုံးခြင်း" စည်းကမ်းချက်ကိုပါ ထည့်သွင်းဖော်ပြသင့်ပါသည်။ ဌာန၏ လိုအပ်ချက်နှင့် ကိုက်ညီမှုရှိ မရှိ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

( ဒ) စာချုပ် (မူကြမ်း) အပိုဒ် ၇ (က)တွင် အငှားချထားခြင်းခံရသူ (လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ)၏ ဖျက်ကွက်မှုကြောင့်မဟုတ်ဘဲ အပိုဒ် ၆(ခ) မလွန်ဆန်နိုင်သော ဖြစ်ရပ်ကြောင့်သော်လည်းကောင်း၊ အပိုဒ် (ဂ)လုပ်ငန်း၏ မူလရည်မှန်းချက်များကို ဆက်လက်အကောင်အထည်ဖော်နိုင်စွမ်း မရှိတော့လျှင် သော်လည်းကောင်း၊ အပိုဒ်ခွဲ (ဃ) နှစ်ဖက်သဘောတူစာချုပ် ရုပ်စဲလျှင်သော်လည်းကောင်း စာချုပ်ရုပ်စဲသည့်အခါ ပေးသွင်းထားပြီး ဖြစ်သော ငှားရမ်းခများကို အသုံးမပြုရသေးသည့် ကာလများအတွက် ငှားရမ်းခအားတွက်ချက်၍ အငှားချထားသူ (လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ)က ပြန်လည်ပေးအပ်ရန်နှင့် တည်ဆောက်တပ်ဆင်ထားသော အဆောက်အဦများ၊ ပစ္စည်းများ၊ ကုန်ကျစရိတ်များအား ပြန်လည်ပေးလျော်ရန် နှစ်ဦးနှစ်ဖက် သဘောတူကြကြောင်း ဖော်ပြထားရာ ဌာနအနေဖြင့် လက်ခံနိုင်ခြင်း ရှိ မရှိ ပြန်လည်စိစစ်ရန် လိုအပ်ပါသည်၊

( ဓ) စာချုပ် (မူကြမ်း) အပိုဒ် ၇ (ခ)တွင် "အငှားချထားခြင်းခံရသူ (လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ)၏ ဆန္ဒကြောင့် စာချုပ်ပါ လုပ်ငန်းကို ဆက်လက်မဆောင်ရွက်လိုသော အကြောင်းကို ဖော်ပြ၍ စာချုပ်ရုပ်စဲကြောင်း အကြောင်းကြားစာ ပို့ပြီးမှ စာချုပ်ရုပ်စဲခွင့်ရှိသည်" ဟုလည်းကောင်း၊ အပိုဒ် ၇ (ဂ)တွင် "အငှားချထားခြင်းခံရသူ (လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ)၏ ဆန္ဒကြောင့် စာချုပ်ပါလုပ်ငန်းကို ဆက်လက် မဆောင်ရွက်လိုသော အကြောင်းဖြင့်စာချုပ်ရုပ်စဲလိုပါက ---------- " ဟုလည်းကောင်း ဖော်ပြထားရာ အငှားချထားခြင်းခံရသူ (လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ)မှ ၎င်း၏ဆန္ဒအရ

စာချုပ်အား ရုပ်စဲလိုပါက အကြောင်းကြားစာပို့ပြီး ရုပ်စဲနိုင်သည့် ထဘော သက်ရောက်နေပါသည်။ ထို့ပြင် စာချုပ် (မူကြမ်း) အပိုဒ် (၆)၏ အပိုဒ်ခွဲ (က) မှ (ဃ)တွင် စာချုပ်ရုပ်စဲနိုင်သည့် အဓိကအကြောင်း ချင်းရာများအား ဖော်ပြထားရာ စာချုပ် (မူကြမ်း) အပိုဒ် ၇ (ခ) နှင့် (ဂ)ပါ စည်းကမ်းချက်နှင့် ညီညွတ်မှုမရှိဘဲ ကွဲလွဲနေသည်ဟု ယူဆပါသည်။ သို့ဖြစ်ပါ၍ အပိုဒ်ခွဲ ၇ (ခ)နှင့် (ဂ)ပါ စည်းကမ်းချက်များအား ပယ်ဖျက်သင့်ပါသည်။ သို့ရာတွင် စာချုပ်ရုပ်စဲခြင်းကိစ္စရပ်တွင် စာချုပ် (မူကြမ်း) အပိုဒ် ၆ (က)မှ (ဃ)အထိ ဖော်ပြထားသော အကြောင်းချင်းရာကိစ္စ တစ်ခုခုကြောင့် စာချုပ်ရုပ်စဲမည်ဆိုပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုချက်ရရှိပြီး နောက်မှသာ စာချုပ်ရုပ်စဲခြင်းသည် အကျိုးသက်ရောက်မှု ရှိစေရမည်ဟု ဖော်ပြသင့်ပါကြောင်း အကြံပြုအပ်ပါသည်။ ဌာနက ပြန်လည်စိစစ်ရန် လိုအပ်ပါသည်၊

( န) စာချုပ် (မူကြမ်း) အပိုဒ် ၁၆ တွင် စာပေးစာယူပြုလုပ်ရာ၌ မြန်မာဘာသာ သို့မဟုတ် အင်္ဂလိပ်ဘာသာဖြင့် ရေးသား၍ အချင်းချင်းဆက်သွယ်မည် ဖြစ်ကြောင်း ဖော်ပြထားရာ ဖွဲ့စည်းပုံအခြေခံဥပဒေပုဒ်မ ၄၅၀ အရ ရုံးသုံးဘာသာ စကားမှာ မြန်မာဘာသာဖြစ်ပြီး တစ်ဖက်စာချုပ်ဝင်ကုမ္ပဏီသည် မြန်မာနိုင်ငံသားဖြစ်သဖြင့် မြန်မာဘာသာဖြင့်သာ ဆက်သွယ်အကြောင်းကြားသင့်သည်ဟု ယူဆပါသည်၊ ဌာနက ပြန်လည်စိစစ်သင့်ပါသည်၊

(ပ) စာချုပ် (မူကြမ်း)တွင် မြေသို့ပြန်လည် ဝင်ရောက်ပိုင်ခွင့် စည်းကမ်းချက်မပါရှိသဖြင့် မင်နီဖြင့် ရေးသားပေးလိုက်ပါသည်။ ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ဖ) လိုအပ်သော နေရာများတွင် မင်နီဖြင့် ပြင်ဆင်၊ ဖြည့်စွက်ပေးလိုက်ပါသည်။

မြန်မာ့ဆိပ်ကမ်းအာဏာပိုင်ဥပဒေပုဒ်မ ၇၄ ၌ "မည်သူမျှ လုပ်ငန်းလိုင်စင်မရှိဘဲ ဆိပ်ကမ်းနယ်နိမိတ်အတွင်း ဆိပ်ကမ်းတံတားတစ်မျိုးမျိုးကို သော်လည်းကောင်း၊ သင်္ဘောကျင်း၊ ရေလုပ်သင်္ဘောကျင်းနှင့် လှန်းလမ်းတစ်မျိုးမျိုးကိုသော်လည်းကောင်း တည်ဆောက်ခြင်း သို့မဟုတ် လုပ်ကိုင်ခြင်းမပြုရ။" ဟုပြဋ္ဌာန်းထားပါသည်။ သို့ပါ၍ ပဋိညာဉ်စာချုပ် (မူကြမ်း)ပါ ဆောင်ရွက်မည့် ကိစ္စရပ်များနှင့်စပ်လျဉ်း၍ အဆိုပါဥပဒေပုဒ်မ ၇၂ (တ)အရ လုပ်ငန်းလိုင်စင်လျှောက်ထားရယူရန် လိုအပ်ပါသည်။

တံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ ၉ အရအစိုးရ တံဆိပ်ခေါင်းခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်မရှိသေးလျှင် တံဆိပ်ခေါင်းအက်ဥပဒေအရ ကျသင့်သော တံဆိပ်

ခေါင်းခွန်ကို အငှားချထားခြင်းခံရသူ (လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ) Mandalay Dry Port Co.,Ltd က ထမ်းဆောင် ရမည်ဖြစ်ပါသည်။

ဤ စာချုပ် (မူကြမ်း) ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရ သာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန် မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များ နှင့် စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြုပါသည်။

Mandalay Dry Port Co.,Ltd သည် ဥပဒေအရ တရားဝင်ဖွဲ့စည်းထားသည့် ကုမ္ပဏီ ဟုတ်၊ မဟုတ်၊ စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့်ရှိ မရှိ၊ ငွေကြေးအင်အား ပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူသည် တရားဝင် လွှဲအပ်ခြင်းခံရသူ ဟုတ် မဟုတ် စသည့်အချက်များနှင့် စပ်လျဉ်း၍ ကြိုတင်စိစစ်ရန် လိုအပ်မည်ဖြစ်ပါသည်။

ဤစာချုပ် (မူကြမ်း)ကို လက်မှတ်ရေးထိုး ချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန် အတွက် ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ မိတ္တူ (၃)စောင်နှင့် မန္တလေးတိုင်းဒေသကြီး ဥပဒေချုပ်ရုံးသို့ မိတ္တူ (၁)စောင် ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

ဤ အကြံပြုချက်ကို လျှို့ဝှက်အဆင့် သတ်မှတ်ဆောင်ရွက်ရန် ဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ အကြံပြုပြန်ကြားချက်နှင့်အညီ ဆောင်ရွက်ရန် ဖြစ်ပါကြောင်း အကြံပြု ပြန်ကြားအပ်ပါသည်။

( ရဲအောင်မြင့် )
ဥပဒေချုပ်
ဗ

မိတ္တူကို -
ရုံးလက်ခံ

မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့ပိုင် ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်
ပလိပ်ဘူတာအနီးရှိ

မြေဧရိယာ ၁၄.၀၅ ကေရှိ မြေကွက်တွင်

**Ever Flow River Logistics & Distribution Center (Mandalay) Co.,Ltd**

မှ

# တူးနှင်းတွင်းကွန်ထိန်နာဆိပ်တည်ဆောက်ပြီး BOT စနစ်ဖြင့် လုပ်ကိုင်ရန် သဘောတူစာချုပ်အား ပြင်ဆင်သည့် ပြင်ဆင်ချက် သဘောတူစာချုပ်

ရက်စွဲ။ ။၂၀၁၇ ခုနှစ် ဩဂုတ်လ

## မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ပိုင် ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်၊ ပလိပ်ဘူတာအနီးရှိ မြေဧရိယာ ၁၄.၀၅ ဧကရှိမြေကွက်တွင် ကုန်းတွင်းကွန်တင်နာဆိပ် တည်ဆောက်ပြီး BOT စနစ်ဖြင့်လုပ်ကိုင်မည့်သဘောတူစာချုပ်အား ပြင်ဆင်ချက် သဘောတူစာချုပ်

ဤ ပြင်ဆင်ချက်သဘောတူစာချုပ်ကို ၂၀၁၇ ခုနှစ်၊ ဩဂုတ်လ (၉) ရက်နေ့တွင် မန္တလေးမြို့၌ ဦးဇာနည်အောင်၊ ရာထူး - ဝန်ကြီး၊ လျှပ်စစ်၊ စွမ်းအင် နှင့် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့ ကိုယ်စားပြုသော မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့ (နောင်တွင် "အငှားချထားသူ (လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ)" ဟုခေါ်ဆိုမည်ဖြစ်ပြီး အဆိုပါ စကားရပ်၌ ယင်းအားဆက်ခံသူများ၊ ဥပဒေအရလွှဲအပ်ခြင်းခံရသူများ ပါဝင်သည်) ကတစ်ဖက် နှင့်

ဦးကျော်လွင်ဦး၊ နိုင်ငံသားစိစစ်ရေးကတ်ပြားအမှတ် ၁၂/ကမရ(နိုင်) ၀၀၉၂၂၂၊ အုပ်ချုပ်မှုဒါရိုက်တာ ကိုယ်စားပြုသော မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ကုမ္ပဏီဖွဲ့စည်းထားသော အမှတ် (၃၉)၊ ယူနိုက်တက်ကွန်ဒို၊ စတုတ္ထထပ်၊ အလံပြဘုရားလမ်း၊ ဒဂုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင်တည်ရှိသည့် Ever Flow River Logistics & Distribution Center (Mandalay) Co., Ltd (နောင်တွင် "အငှားချထားခြင်းခံရသူ (လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ)" ဟုခေါ်ဆိုမည်ဖြစ်ပြီး အဆိုပါ စကားရပ်၌ ယင်းအားဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များ၊ ဥပဒေအရလွှဲအပ်ခြင်းခံရသူများ ပါဝင်သည်) ကအခြားတစ်ဖက် တို့သည် ဤသဘောတူစာချုပ်ကို နှစ်ဖက်သဘောတူချုပ်ဆိုကြပါသည်။

(က) အငှားချထားသူ (လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ) နှင့် အငှားချထားခြင်းခံရသူ (လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ) တို့သည် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ပိုင် ပလိပ်သစ်ဆိပ် မြေဧရိယာ ၁၄.၀၅ ဧကရှိမြေကွက်တွင် ကုန်းတွင်းကွန်တင်နာ Dry Port တည်ဆောက်ပြီး BOT စနစ်ဖြင့်လုပ်ကိုင်ရန် ငှားရမ်းခြင်း သဘောတူစာချုပ် ကို ၂၅-၂-၂၀၁၆ ရက်နေ့တွင် ချုပ်ဆို၍ ငှားရမ်းခဲ့သည်ကတစ်ကြောင်း၊

(ခ) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၏ ၃၀-၁-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ ရက - ၁၀/၁/၂၀၁၇ (၀၁၀၆၂) စာဖြင့် ပဏာမသဘောတူခွင့်ပြုပြီးဖြစ်သည်ကတစ်ကြောင်း၊

(ဂ) မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့ရုံး၏ ၆-၁-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ ၂/၃-၄/၂၄ ဦး ၆ (၀၀၈) ပါစာဖြင့် "၂၂-၁၂-၂၀၁၆ ရက်နေ့တွင် ကျင်းပပြုလုပ်သော တိုင်းဒေသကြီးအစိုးရအဖွဲ့၊ အစည်းအဝေးအမှတ်စဉ် ၁၈/၂၀၁၆ ဆုံးဖြတ်ချက် အပိုဒ် ၁၇ အရ " စာချုပ်တွင် ပါရှိသည့် အပိုဒ် (၁) ကိုဖြုတ်ရန်၊ စာချုပ်ပြင်ဆင်ချုပ်ဆိုရန်၊ အမည်ပြောင်းလဲခွင့်နှင့်ပတ်သက်၍ သဘောတူကြောင်း၊ အမှာစာကို ကန့်ကွက်ရန်မရှိကြောင်း" ဟု ဆုံးဖြတ်ခဲ့ပြီးဖြစ်သည်ကတစ်ကြောင်း၊

(ဃ) မူလစာချုပ်ပါ အငှားချထားခြင်းခံရသူဖြစ်သော ကုမ္ပဏီ၏အမည်အား "Ever Flow River Logistics & Distribution Center (Mandalay) Co., Ltd. " အမည်သို့ ပြောင်းလဲခြင်းတို့ကြောင့် ဤပြင်ဆင်ချက်သဘောတူစာချုပ်ကို စာချုပ်ဝင်များအကြား ချုပ်ဆိုခြင်းဖြစ်ပါသည်။

၁။ မူလ စာချုပ်၌ဖော်ပြထားသော "Mandalay Dry Port Co., Ltd. အမည်အားပယ်ဖျက်၍ အောက်ပါအမည်ဖြင့် အစားထိုးပြင်ဆင်ရန်

"Ever Flow River Logistics & Distribution Center (Mandalay) Co., Ltd. "

၂။ မူလစာချုပ်အပိုဒ် ၄ အငှားချထားခြင်းခံရသူ (လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ) လိုက်နာရန် စည်းကမ်းချက်များ၊ တာဝန်နှင့် အခွင့်အရေးများခေါင်းစဉ်အောက်ရှိ အပိုဒ်ခွဲ (ခ) (၁) ကိုပယ်ဖျက်ရမည်။

၃။ ဤပြင်ဆင်ချက်သဘောတူစာချုပ်သည် မူလ စာချုပ်၏ တစ်စိတ်တစ်ပိုင်းဖြစ်စေရမည်။

၄။ ဤပြင်ဆင်ချက်သဘောတူစာချုပ်ပါပြင်ဆင်သည့် အချက်များမှအပ မူလ စာချုပ်ပါ ကျန်စည်းကမ်းချက်များသည် ပြောင်းလဲမှုမရှိဘဲ ဆက်လက်၍ အကျိုးသက်ရောက်မှုရှိစေရမည်။

၅။ ဤပြင်ဆင်ချက်သဘောတူစာချုပ်သည် နှစ်ဖက်စာချုပ်ဝင်တို့ လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်မှုရှိစေရမည်။

အထက်ဖော်ပြပါစည်းကမ်းချက်များကို သဘောတူလက်ခံပါသဖြင့် အောက်ပါအသိသက်သေများ ရှေ့မှောက်တွင် ၂၀၁၇ ခုနှစ်၊ ဩဂုတ်လ (၉) ရက်နေ့တွင် လက်မှတ်ရေးထိုးကြပါသည်။

9/8/2017

| | |
|---|---|
| ဦးဇာနည်အောင်<br>ဝန်ကြီး<br>လျှပ်စစ်၊ စွမ်းအင် နှင့် ဆောက်လုပ်ရေးဝန်ကြီးဌာန<br>မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ (ကိုယ်စား) | ဦးကျော်လွင်ဦး<br>အုပ်ချုပ်မှုဒါရိုက်တာ<br>Ever Flow River Logistics & Distribution Center (Mandalay) Co., Ltd (ကိုယ်စား) |

(ဂ) BOT စနစ်ဆိုသည်မှာအငှားချထားသူ အငှားချထားသူ ပိုင်ဆိုင်သည့် အထက်ဖော်ပြပါ မြေကွက်ကို အငှားချထားခြင်းခံရသူ (လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ)က နှစ်ရှည်ငှားရမ်း၍ အဆိုပါ မြေကွက်ပေါ်တွင် ကုန်းတွင်း ဆိပ်ကွန်တိန်နာစခန်းကို အငှားချထားခြင်းခံရသူ က ငွေကြေး အရင်းအနှီးထည့်ဝင်မတည်ကာ တည်ဆောက်ပြီး မန္တလေး - ရန်ကုန် ရထားဖြင့် ကုန်စည်ပို့ဆောင်ရေး လုပ်ငန်းကို Dry Port စီးပွားရေးလုပ်ငန်းအဖြစ် လုပ်ကိုင်ပြီး မြေငှားကာလ ကုန်ဆုံးချိန်တွင် အဆောက်အဦးများနှင့်တကွ လုပ်ငန်းကိုပါ ပြန်လည်အပ်နှံရန် စနစ်ကိုဆိုလိုသည်။

(ဃ) Dry Port စီမံကိန်းဆိုသည်မှာ အငှားချထားသူ က ၎င်းပိုင်ဆိုင်သည့် မြေကွက်ပေါ်တွင် အငှားချထားခြင်းခံရသူ အား ကုန်းတွင်း ကွန်တိန်နာစခန်း တည်ဆောက်ပြီး ကုန်စည်များထည့်သွင်းထားသော ကွန်တိန်နာများကို မန္တလေး - ရန်ကုန် ရထားဖြင့် ကုန်စည်ပို့ဆောင်ရေးလုပ်ငန်း လုပ်ကိုင်စေရန် ခွင့်ပြုသည့် စီမံကိန်းကို ဆိုလိုသည်။ အဆိုပါ Dry Port စီမံကိန်းခွင့်ပြုချက်သည် သက်ဆိုင်ရာဝန်ကြီးဌာန၊ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီတို့၏ ခွင့်ပြုချက်၊ သဘောတူညီချက်တို့ ပြည့်ပြည့်စုံစုံရရှိသည့် စီမံကိန်းဖြစ်စေရမည်။

(င) စီးပွားဖြစ်လုပ်ကိုင်သော နေ့ဆိုသည်မှာ စီမံကိန်းအတွက်လိုအပ်သည့် အဆောက်အဦများ တည်ဆောက်ပြီး လုပ်ငန်းစတင်၍ ဆောင်ရွက်သည့်နေ့ကို စီးပွားဖြစ်လုပ်ကိုင်သော နေ့ရက်ဟု သတ်မှတ်သည်။ (ခန့်မှန်း ၂၀၁၇ခုနှစ်အောက်တိုဘာလ)

## ၁။ အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း

အငှားချထားသူ သည် နောက်ဆက်တွဲများတွင် အသေးစိတ်ဖော်ပြထားသော မန္တလေးတိုင်း၊ စဉ့်ကိုင်မြို့နယ်အတွင်းရှိ မြေဧရိယာ၁၄.၀၅၈ဧကရှိသည့် မြေကွက်ကို ဂရံစာချုပ်အမှတ် ________ အရ တရားဝင် ပိုင်ဆိုင်ခွင့်ရှိသူ ဖြစ်ကြောင်း အာမခံပါသည်။

အငှားချထားခြင်းခံရသူ သည် စာချုပ်ပါ လုပ်ငန်းကို အကောင်အထည်ဖော်ရန် ငွေကြေးအင်အား ပြည့်စုံသူဖြစ်ပြီး အငှားချထားသူ နှင့် အငှားချထားခြင်းခံရသူ တို့သည် စာချုပ်တွင် လက်မှတ်ရေးထိုးရန် အခွင့်အာဏာရှိကြသူများ ဖြစ်ကြောင်း အသီးသီးအာမခံပါသည်။

## ၂။ အငှားချထားသည့်မြေတည်နေရာနှင့်ငှားရမ်းခြင်းသက်တမ်း။

ငှားရမ်းသည့်မြေတည်နေရာ နှင့် ငှားရမ်းခြင်းသက်တမ်းတို့မှာအောက်ဖော်ပြပါအတိုင်းဖြစ်ပါသည်-

(က) **ငှားရမ်းသည့်မြေတည်နေရာ။**

ဤစာချုပ်၏ ပူးတွဲမြေပုံကြမ်းတွင် မှင်နီဖြင့် အမှတ်အသားပြုလုပ်ပြထားသည့် မန္တလေးတိုင်းဒေသကြီး၊ စဉ့်ကိုင်မြို့နယ်အတွင်းရှိ မြေဧရိယာ ၁၄.၇၅ဧကရှိသည့် မြေကွက် ဖြစ်ပါသည်။

(ခ) **ငှားရမ်းခြင်းသက်တမ်း။**

ကနဦးနှစ် (၅၀) ငှားရမ်းပြီး တစ်ကြိမ်လျှင် (၁၀)နှစ်ဖြင့် သက်တမ်း နှစ်ကြိမ်အထိ တိုးမြှင့်နိုင်သည်။ အငှားချထားခြင်းခံရသူသည် စာချုပ်သက်တမ်းတိုးမြှင့်လိုပါက ကနဦးသက်တမ်းမကုန်ဆုံးမီ အနည်းဆုံး (၃) လကြိုတင်၍ အငှားချထားသူ သို့စာဖြင့် အကြောင်းကြားတင်ပြရမည်။ ကနဦးနှစ် (၅၀) ငှားရမ်းပြီးတစ်ကြိမ်လျှင် (၁၀) နှစ်ဖြင့် သက်တမ်း (၂) ကြိမ်အထိ စာချုပ်သက်တမ်းတိုးမြှင့်ရန်အတွက် နှစ်ဖက်ဆွေးနွေးပြီး လုပ်ထုံးလုပ်နည်းနှင့်အညီ သက်တမ်းတိုးမြှင့်ရန် လျှောက်ထားကြမည်ဖြစ်ပြီး မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိမှသာ အတည်ဖြစ်စေရမည်။

၃။ **ငှားရမ်းခနှုန်းထား၊ ပရီမီယံကြေးနှင့် ငွေပေးချေခြင်းနည်းလမ်း။**

အငှားချထားခြင်းခံရသူ သည် BOT စနစ်ဖြင့် ငှားရမ်းလုပ်ကိုင်ခွင့် ရရှိသော မြေဧရိယာ ၁၄.၇၅ဧက အတွက် ငှားရမ်းခကို အောက်ပါအတိုင်းပေးဆောင်ရမည်-

(က) ပထမနှစ်အတွက် ငှားရမ်းခကို အငှားချထားခြင်းခံရသူ က မန္တလေး - ရန်ကုန် ရထားဖြင့် Dry Port စီမံကိန်း ကုန်စည်ပို့ဆောင်ရေးလုပ်ငန်းကို စီးပွားဖြစ် စတင်လုပ်ကိုင်သော နေ့ရက်မှစ၍ တွက်ချက်ပေးဆောင်ရမည်။ ကုန်စည်ပို့ဆောင်ရေးလုပ်ငန်းကို စတင်ဖွင့်လှစ်လုပ်ကိုင်သော နေ့ရက်ကို အငှားချထားခြင်းခံရသူ က အငှားချထားသူ အား အကြောင်းကြားရမည်။

(ခ) နှစ်စဉ်မြေငှားရမ်းခနှုန်းထားမှာ (၁) ဧကအတွက် ငွေကျပ် (၁၂)သိန်းနှုန်းဖြစ်ပြီး၊ အသုံးပြုမည့် မြေအကျယ်အဝန်းသည် ၁၄.၇၅ဧက ဖြစ်ပါက စုစုပေါင်း ၁နှစ် အတွက် ငှားရမ်းခသည် ငွေကျပ် (၁၆,၈၆၀,၀၀၀) (ကျပ်တစ်ရာခြောက်ဆယ့်ရှစ်သိန်းခြောက်သောင်း) ဖြစ်ပါသည်။

(ဂ) ငွေပေးသွင်းရာတွင် မန္တလေးတိုင်း အစိုးရအဖွဲ့၏ ဘဏ်ငွေစာရင်းအမှတ် MD 023914သို့ ပေးသွင်းရန်နှင့် ငွေသွင်း ပြေစာမူရင်းများ ပေးပို့ရမည်။

(ဃ) ငှားရမ်းခများကို ပေးဆောင်ရန် အချိန်စေ့ရောက်ပြီးသည့်နေ့မှစ၍ ရက်ပေါင်း (၃၀) အတွင်း အငှားချထားခြင်းခံရသူ က အထက်အပိုဒ် (ဂ) ပါ ဘဏ်ငွေစာရင်းသို့ပေးသွင်းရမည်။

၄။ **အငှားချထားခြင်းခံရသူ လိုက်နာရန် စည်းကမ်းချက်များ၊ တာဝန်နှင့်အခွင့်အရေးများ။**

အငှားချထားခြင်းခံရသူ သည် အောက်ပါ စည်းကမ်းများအား လိုက်နာဆောင်ရွက်ရမည်ဖြစ်ပါသည် -

(က) အငှားချထားခြင်းခံရသူသည် စီမံကိန်း မြေဧရိယာကို အောက်ပါအတိုင်း အဆင့်အလိုက် အကောင်အထည်ဖော် ဆောင်ရွက်ရပါမည်။

(၁) မြေဖို့ခြင်း၊ မြေညှိ မြေခင်းခြင်း၊

(၂) လမ်းဖောက်ခြင်း၊ ရေမြောင်း၊ လျှပ်စစ်မီးကြိုး သွယ်တန်းခြင်း၊

(၃) Dry Port အတွက် လိုအပ်သည့် အဆောက်အဦးများ ဆောက်လုပ်ခြင်း၊

(၄) အငှားချထားသူ က အတည်ပြုသည့် Master Plan အတိုင်း ဆက်လက် ဆောင်ရွက်ရန် ဖြစ်ပါသည်။

(ခ) အငှားချထားခြင်းခံရသူသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်က BOT လုပ်ငန်း လုပ်ကိုင်ရန် ခွင့်ပြုသည့် ကာလကုန်ဆုံးပါက -

(၁) BOT လုပ်ငန်းကို တည်ဆဲဥပဒေနှင့်အညီ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ သက်ဆိုင်ရာ အစိုးရအဖွဲ့၊ အာဏာပိုင် အဖွဲ့အစည်း တို့ထံမှ လိုအပ်သော ခွင့်ပြုချက်များဖြင့် BOO စနစ်သို့ ပြောင်းလဲ ဆောင်ရွက်ခွင့်ပြုရန် လျှောက်ထား နိုင်သည်။

(၂) ဤစာချုပ်ပါ လုပ်ငန်းအတွက် ခွင့်ပြုသော ကာလကုန်ဆုံးသည့်နေ့မှ နောက်နှစ်များအတွက် သက်တမ်းတိုးမြှင့်ပေးရန် လျှောက်ထားခွင့်ရှိသည်။ ထိုသို့ သက်တမ်းတိုး လျှောက်ထားရာတွင် ထပ်မံပေးသွင်းရမည့် ပရီမီယံကြေးနှုန်း၊ မြေငှားရမ်းခနှုန်းထားတို့ကို ပြန်လည်သတ်မှတ်ပေးရန်ကိုပါ လျှောက်ထားရမည်။

(၃) ဤစာချုပ်ပါ လုပ်ငန်းအတွက် ခွင့်ပြုသောကာလ ကုန်ဆုံးသည့်အချိန်တွင် သက်တမ်း တိုးမြှင့်ခြင်းမပြုလုပ်ပါက အငှားချထားသူ ထံမှ ပရီမီယံကြေး အားလုံးကို ပြန်လည် ထုတ်ယူခွင့်ရှိသည်။ ထိုသို့ထုတ်ယူပြီးနောက် Dry Port လုပ်ငန်းကိုအငှားချထားသူ အား အဖိုးစားနားမပါရှိဘဲ လွှဲပြောင်းပေးအပ်ရမည်။

(ဂ) အငှားချထားခြင်းခံရသူ သည် အငှားချထားစဉ်ကာလအတွင်း ငှားရမ်းအသုံးပြုသော မြေအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို သော်လည်းကောင်း၊ BOTစနစ်ဖြင့် ဆောင်ရွက်ခွင့် ရသည့်လုပ်ငန်း၏ လုပ်ငန်းတစ်ခုလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို သော်လည်းကောင်း၊ အငှားချထားသူ ၏စာဖြင့် ကြိုတင်ရေးသား ခွင့်ပြုချက်မရှိဘဲ အခြားမည်သူကိုမျှ ထုခွဲရောင်းချခြင်း၊ တစ်နည်းနည်းဖြင့် ထပ်ဆင့် လွှဲပြောင်းခြင်း၊ ကိုယ်စား ဆောင်ရွက်စေခြင်းတို့ မပြုလုပ်ရပါ။

(ဃ) ငှားရမ်းသည့်အချိန်ကာလအတွင်း မြေပေါ်တွင် တည်ဆောက်မည့် အဆောက်အဦးများကို မီးအာမခံနှင့် အခြားလိုအပ်သော အာမခံများကို မြန်မာအာမခံဥပဒေအရ ထားရှိရန်၊ အငှားချထားခြင်းခံရသူက တာဝန်ယူရမည်။

(င) အငှားချထားခြင်းကိစ္စနှင့်စပ်လျဉ်း၍ မြေခွန်မှအပအခြားစည်ပင်သာယာခွန်အပါအဝင် လုပ်ငန်း ဆောင်ရွက်မှုနှင့် သက်ဆိုင်သော အခွန်အခအားလုံးကို အချိန်မှန်မှန်ပေးသွင်းရမည်။

(စ) စီမံကိန်းကာလ တစ်လျှောက်လုံး ဆောင်ရွက်မှုမှန်သမျှသည် မြန်မာနိုင်ငံ၏ တည်ဆဲ ဥပဒေများ၊ နည်းဥပဒေများ၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ ဖြစ်စေရမည်။

(ဆ) နိုင်ငံတော်မှ ချမှတ်ထားသော မူဝါဒများကိုလိုက်နာ၍ တရားဥပဒေနှင့် ငြိစွန်းသော လုပ်ငန်းရပ်များ လုပ်ဆောင်ခြင်းမှ ရှောင်ကြဉ်ရမည်။

(ဇ) အငှားချထားခြင်းခံရသူ သည် မလွန်ဆန်မတားဆီးနိုင်သော ဖြစ်ရပ်များမှလွဲ၍ ဤစာချုပ်ပါလုပ်ငန်းများကို သတ်မှတ်သည့် အချိန်ကာလအတွင်း ပြီးစီးအောင် မဆောင်ရွက်နိုင်ပါက အငှားချထားသူ က လုပ်ငန်းတိုးတက်ဆောင်ရွက်ရန်အတွက် အချိန်ကာလ သတ်မှတ်သည့် နို့တစ်စာကို ပေးမည်ဖြစ်ပြီး အဆိုပါ နို့တစ်စာတွင် သတ်မှတ်ထားသော ကာလအတွင်း အငှားချထားခြင်းခံရသူက ပြုပြင်ဆောင်ရွက်ခြင်းမရှိပါက အငှားချထားသူ ၏ ဆုံးဖြတ်ချက်အတိုင်းလိုက်နာဆောင်ရွက်ရမည်။

**၅။ အငှားချထားသူ၏ တာဝန်နှင့်စည်းကမ်းချက်များ။**

အငှားချထားသူသည် အောက်ပါစည်းကမ်းများအားလိုက်နာဆောင်ရွက်ရမည်ဖြစ်ပါသည်။

(က) အငှားချထားသူသည် ငှားရမ်းသည့်မြေနှင့်သက်ဆိုင်သည့်မြေခွန်ကိုပေးဆောင်ရမည်။

(ခ) အငှားချထားသူသည် အငှားချထားစဉ်ကာလအတွင်း အငှားချထားခြင်းခံရသူ မှ မြေကို ငြိမ်းချမ်းစွာနှင့် အနှောက်အယှက်ကင်းရှင်းစွာ အသုံးပြုခွင့်ရရှိစေရမည်။ စီမံကိန်းကာလအတွင်း လုပ်ငန်းများ ချောမွေ့စွာ ဆောင်ရွက်နိုင်ရန် လုံခြုံရေးနှင့် ဘေးအန္တရာယ်ကင်းရှင်းစေရေးအတွက် လိုအပ်သော အစီအစဉ်များ ချမှတ် ဆောင်ရွက်ထားရှိရမည်။

(ဂ) Dry Port စီမံကိန်း တည်ဆောက်ရာတွင် မြေယာပိုင်ဆိုင်မှုနှင့် ပတ်သက်၍ ပေါ်ပေါက်လာမည့် အရှုပ်အရှင်းများနှင့် တောင်းဆိုမှုများကို တာဝန်ယူဖြေရှင်း ဆောင်ရွက်ပေးရပါမည်။ စီမံကိန်းလုပ်ငန်းနှင့်ဖြစ်စေ၊ တည်ဆောက်မည့်မြေယာနှင့် ဖြစ်စေဆက်စပ်၍ ဖြစ်ပေါ်လာနိုင်သော ပြည်သူလူထုနှင့် ပတ်သက်သည့် အငြင်းပွားကိစ္စများ၊ လုံခြုံရေး ဆိုင်ရာကိစ္စများ၊ အုပ်ချုပ်ရေးဆိုင်ရာကိစ္စများကို ဒေသဆိုင်ရာအုပ်ချုပ်ရေးနှင့် လုံခြုံရေး တာဝန်ရှိဌာန အဖွဲ့အစည်းများနှင့် ညှိနှိုင်းဆောင်ရွက်ဖြေရှင်းပေးရမည်။

(ဃ) အငှားချထားသူသည် ဤစာချုပ်အရ အငှားချထားခြင်းခံရသူ အား အငှားချထားစဉ်ကာလအတွင်း ငှားရမ်းအသုံးပြုစေသော မြေအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကိုသော်လည်းကောင်း၊ BOT ၏ လုပ်ငန်းတစ်ခုလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို သော်လည်းကောင်း အငှားချထားခြင်းခံရသူ ၏ စာဖြင့် ကြိုတင်ရေးသား သဘောတူညီချက်မရှိဘဲ အခြားမည်သူကိုမျှ ထုခွဲရောင်းချခြင်း၊ တစ်နည်းနည်းဖြင့် ထပ်မံ ငှားရမ်းခြင်း၊ လွှဲပြောင်းခြင်း၊ ကိုယ်စား ဆောင်ရွက်စေခြင်းတို့ မပြုလုပ်ရပါ။

## ၆။ စာချုပ်ရုပ်သိမ်းခြင်း။

ဤစာချုပ်ကိုချုပ်ဆိုသူများသည်အောက်ဖော်ပြပါအကြောင်းအချင်းရာတစ်ရပ်ရပ်ဖြစ်ပေါ်လာလျှင်စာချုပ်ကိုရုပ်သိမ်းနိုင်သည်။

(က) ဤစာချုပ်ပါ အဓိကတာဝန်များနှင့် စည်းကမ်းချက်တစ်ရပ်ရပ်ကို စာချုပ်ဝင် တစ်ဖက်ဖက်က ဆောင်ရွက်ရန်ပျက်ကွက်ခြင်း။

(ခ) မလွန်ဆန်နိုင်သောဖြစ်ရပ်သည်တဆက်တည်း (၆) လကြာမြင့်ခြင်း။

(ဂ) လုပ်ငန်း၏မူလရည်မှန်းချက်များကိုဆက်လက်အကောင်အထည်ဖော်နိုင်စွမ်းမရှိတော့ခြင်း။

(ဃ) နှစ်ဖက်သဘောတူစာချုပ်ရုပ်သိမ်းခြင်း။

(ဂ) MIC ၏ခွင့်ပြုချက်ရရှိပြီးမှသာစာချုပ်ရပ်စဲခြင်းသည်အကျိုးသက်ရောက်မှုရှိစေရမည်။

**၇။ စာချုပ်ရပ်စဲခြင်း၏အကျိုးသက်ရောက်မှု**

အငှားချထားခြင်းခံရသူ၏ ပျက်ကွက်မှုကြောင့် မဟုတ်ဘဲ အထက်စာပိုဒ် ၆ (ခ) (ဂ) (ဃ) တွင်ပါရှိသည့် အကြောင်းများကြောင့် စာချုပ်ရပ်စဲသည့်အခါ ပေးသွင်းထားပြီးဖြစ်သော ငှားရမ်းခများကို အသုံးမပြုရသေးသည့် ကာလများအတွက် ငှားရမ်းခများကို တွက်ချက်ပြီး အငှားချထားသူ က ပြန်လည်ပေးအပ်ရမည်။ ထို့အပြင် အငှားချထားခြင်းခံရသူ တည်ဆောက် တပ်ဆင်ထားသော အဆောက်အဦများ၊ ပစ္စည်းများ၊ ကုန်ကျစရိတ်များကို ပြန်လည်ပေးလျော်ရေးအတွက် စီမံခန့်ခွဲမည့် နည်းလမ်းအား နှစ်ဦးနှစ်ဖက်ညှိနှိုင်းဆောင်ရွက်ရန် သဘောတူပါသည်။

**၈။ စာချုပ်အကျိုးသက်ရောက်မည့်နေ့ရက်။**

ဤစာချုပ်သည် အငှားချထားသူ နှင့် အငှားချထားခြင်းခံရသူ တို့ တရားဝင်လက်မှတ်ထိုးသည့် နေ့မှစတင်၍ အကျိုးသက်ရောက်စေရမည်။

**၉။ အငြင်းပွားမှုဖြေရှင်းခြင်း။**

ဤစာချုပ်၏ စည်းကမ်းချက်တစ်ရပ်ရပ်ဖြင့် စပ်လျဉ်း၍ အငြင်းပွားမှုပေါ်လာပါက ထိုအငြင်းပွားမှုကို နှစ်ဦးနှစ်ဖက်ငြိမ်းချမ်းစွာ ညှိနှိုင်းဖြေရှင်းကြရမည်။ ဤကဲ့သို့ ညှိနှိုင်းဖြေရှင်းမရပါက ဥပဒေနှင့်အညီ စီရင်ပိုင်ခွင့်ရှိသော တရားရုံး၏ အဆုံးအဖြတ်ကို ခံယူရမည်။

**၁၀။ ဓါတ်သတ္တုအရင်းအမြစ်များနှင့်ရတနာများ။**

ဤစာချုပ်၏ ငှားရမ်းသက်တမ်းကာလနှင့် တိုးမြှင့်ထားသည့် သက်တမ်းကာလအတွင်း ငှားရမ်းထားသော မြေ၏မြေပေါ် မြေအောက်အတွင်းမှ မမျှော်လင့်ဘဲ ဓါတ်သတ္တုအရင်းအမြစ်များ၊ ကျောက်မျက်ရတနာများနှင့် သဘာဝသယံဇာတများ၊ ရှေးဟောင်းပစ္စည်းများ အစရှိသည်တို့ကို တွေ့ရှိလျှင် သက်ဆိုင်ရာ မြန်မာနိုင်ငံတော် အစိုးရအဖွဲ့အစည်းသို့ချက်ခြင်း အကြောင်းကြား တင်ပြပေးရမည်။ ထိုပစ္စည်းများကို နိုင်ငံတော်က ပိုင်ဆိုင်ပြီး နိုင်ငံတော်ကသာလျှင် တည်ဆဲဥပဒေများနှင့်အညီ စီမံခန့်ခွဲခွင့်ရှိသည်။

**၁၁။ မလွန်ဆန်မတားဆီးနိုင်သောဖြစ်ရပ်များ။**

မလွန်ဆန်မတားဆီးနိုင်သော ဖြစ်ရပ်ကြောင့် စာချုပ်ဝင်တစ်ဖက်ဖက်မှ စာချုပ်ပါ တာဝန်ဝတ္တရားများအနက် တာဝန်အားလုံး သို့မဟုတ် တစ်စိတ်တစ်ပိုင်းကို ဆောင်ရွက်ရန် ယာယီအားဖြင့် မဖြစ်နိုင်သည့်အခါ

တစ်ဘက်စာချုပ်ဝင်သို့ အဆိုပါ ဖြစ်ရပ် ပေါ်ပေါက်ပြီးနောက် (၁၄) ရက်အတွင်း အကျိုးအကြောင်း ပြည့်စုံစွာရေးသားထားသော အကြောင်းကြားစာကို ပေးပို့ရန် စာချုပ်ဝင်များက သဘောတူညီကြသည်။ အဆိုပါ အကြောင်းကြားစာ လက်ခံရရှိသည့် စာချုပ်ဝင်က အတည်ပြုလျှင် မလွန်ဆန်မတားဆီးနိုင်သော ဖြစ်ရပ်များ ဖြစ်ပွားသောကာလအတွင်း တာဝန်ဝတ္တရားဆောင်ရွက်ခြင်းကို ဆိုင်းငံ့နိုင်သည်။ ထိုမလွန်ဆန်နိုင်သော ဖြစ်ရပ်ကြောင့်ဖြစ်ပေါ်သည့်ကြန့်ကြာမှု၊ ပျက်စီးမှုနှင့် ဆုံးရှုံးမှုတို့အတွက် မည်သည့်စာချုပ်ဝင်အပေါ်၌မှ တာဝန်မရှိစေရ။

မလွန်ဆန်မတားဆီးနိုင်သောဖြစ်ရပ်များဆိုသည်မှာသဘာဝအလျောက်ကြုံတွေ့နိုင်သည့်ရေဘေး၊ လေဘေး၊မီးဘေး၊မြေငလျင်ဘေး၊မုန်တိုင်းကျမှု၊မိုးကြိုးပစ်ခြင်းစသည်များအပြင်နိုင်ငံတော်အစိုးရ၏ကန့်သတ်တား မြစ်ချက်များ၊တရားဥပဒေစိုးမိုးရေးနှင့်ငြိမ်ဝပ်ပိပြားမှုပျက်ပြယ်ခြင်း၊စစ်ဖြစ်ခြင်း၊သပိတ်မှောက်ခြင်း၊ဆန္ဒပြပိတ်ဆို့ မှုများ၊စက်ပိုင်းဆိုင်ရာအနှောင့်အယှက်များ၊ပေါက်ကွဲမှုများစသည်တို့နှင့်စာချုပ်ဝင်တစ်ဖက်ဖက်ကလိုအပ်သော သတိဂရုပြုဆောင်ရွက်စေကာမူမလွန်ဆန်မကျော်လွှားနိုင်သည့်အလားတူဖြစ်ရပ်များကိုဆိုလိုပါသည်။

## ၁၂။ မြေသို့ပြန်လည်ဝင်ရောက်ခြင်း။

အငှားချထားသူသည် ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် သို့မဟုတ် လိုက်နာရန် ပျက်ကွက်ခြင်းကြောင့် အငှားချထားခြင်းရသူ က ယင်းကဲ့သို့ ပျက်ကွက်မှုများကို ပြုပြင်ရန် သို့မဟုတ် လိုက်နာရန် လုပ်ငန်း လုပ်ကိုင်ခွင့်ရသူတို့ အကြောင်းကြားစာ ပို့ပေးပြီးနောက် အကြောင်းကြားစာပါ ကာလအတွင်း လိုက်နာမှု မရှိပါက အငှားချထားသူသည် အငှားချထားသည့် မြေနှင့် အဆောက်အဦများကို ပြန်လည်ဝင်ရောက်၍ လက်ရောက်ရယူခွင့်ရှိသည်။ ယင်းသို့ ဝင်ရောက်၍ လက်ရောက် ရယူခြင်းသည် အငှားချထားသူက အငှားချထားခြင်းခံရသူထံမှ ရရန်ရှိသော ငှားရမ်းခ သို့မဟုတ် ပျက်စီးဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းဆိုခွင့်ကို ထိခိုက်ခြင်းမရှိစေရ။

## ၁၃။ စာပေးစာယူပြုလုပ်ရန်ကိစ္စ။

စာပေးစာယူပြုလုပ်ရာတွင် မြန်မာဘာသာဖြင့်ရေးသား၍ မှတ်ပုံတင်စာပို့ခြင်း၊ လေကြောင်းစာပို့ခြင်း၊ အမြန်ချောပို့ခြင်း၊ တဲလက်စ်ဖြင့် ပို့ခြင်း၊ အီးမေးလ်၊ ဖက်စ်ဖြင့် ပို့ခြင်းတို့ကို အသုံးပြု၍ အောက်ပါ လိပ်စာအတိုင်း အချင်းချင်းဆက်သွယ်ရမည်။ လိပ်စာပြောင်းလဲခြင်းရှိပါက တစ်ဖက်သို့ ချက်ချင်း အသိပေး အကြောင်းကြားရမည်-

(က) အငှားချထားသူ၊ မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့။

ကိုယ်စား ဆက်သွယ် ရမည့် သူ၏ အမည်နှင့် ရာထူး၊ ဦးကျော်ဆန်း၊ ဝန်ကြီး၊ လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန

လိပ်စာ မန္တလေးတိုင်းဒေသကြီး ၊ မန္တလေးမြို့၊ အောင်မြေသာဇံမြို့နယ်၊ ၂၃ လမ်း နှင့် ၂၄ လမ်းကြား၊ ၆၄လမ်း

တယ်လီဖုန်းအမှတ်နှင့် ဖက်စ် ၀၉၅၁၂၈၀၃၉

(ခ) အငှားချထားခြင်းခံရသူ၊Mandalay Dry Port Co., Ltd.

ကိုယ်စားပြုသူ - ဦးကျော်လွင်ဦး၊ အုပ်ချုပ်မှုဒါရိုက်တာ။

လိပ်စာ - ရန်ကုန်တိုင်း၊ဒဂုံမြို့နယ်၊ အမှတ် (၃၉)၊ အလံပြဘုရားလမ်း၊ ယူနိုက်တက်ကွန်ဒို၊ စတုတ္ထထပ်

တယ်လီဖုန်းအမှတ်နှင့် ဖက်စ် ၀၉၅၀၀၄၈၈၂၊ ၀၁-၃၈၁၀၁၀၊ ၀၁-၃၈၁၀၆၆၊ ၀၁-၃၈၁၆၆၀

**၁၄။ လျှို့ဝှက်ထိန်းသိမ်းခြင်း။**စာချုပ်ဝင်တို့သည်မိမိတို့၏ဝန်ထမ်းများ၊ကိုယ်စားလှယ်များ၊အစုရှယ်ယာဝင်များ၊ဒါရိုက်တာများ၊ကန်ထရိုက်တာများ၊ပညာရှင်များ၊တာဝန်ပေးအပ်ခြင်းခံရသူများအား၎င်းစာချုပ်တွင်ပါဝင်သည့်သတင်းအချက်အလက်များကိုဖြစ်စေ၊ဆက်စပ်သော

သတင်းအချက်အလက်များကိုဖြစ်စေအခြားသူများ၊အခြားလုပ်ငန်းအဖွဲ့အစည်းများသို့မပေါက်ကြားစေရန်လျှို့ဝှက်စွာထိန်းသိမ်းထားရှိရမည်။

**၁၅။ အထွေထွေ။** ဤစာချုပ်တွင် ပါရှိသည့် ဂရံစာချုပ်မိတ္တူ၊ မြေပုံ၊ မြေရာဇဝင်စာရွက်စာတမ်း၊ ပလိပ်သစ်ဆိပ် တည်နေရာပြမြေပုံတို့သည် ဤသဘောတူစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်ပါသည်။

၁၆။ လက်မှတ်ရေးထိုးခြင်း။

အထက်စာချုပ်ပါ အချက်အလက်များကို "အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ" တို့ သေချာစွာဖတ်ရှုပြီး နှစ်ဦးနှစ်ဖက် သဘောတူလက်ခံပါသဖြင့် ၂၀၁၆ခုနှစ်၊ဖေဖော်ဝါရီလ၊၂၅ရက်နေ့၌ အောက်ပါ အသိသက်သေများရှေ့မှောက်တွင် " အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ" တို့ကလက်မှတ်ရေးထိုးကြပါသည် -

အငှားချထားသူ (ကိုယ်စား)

လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန၊
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၊
ဝန်ကြီးဦးကျော်ဆန်းမှကိုယ်စားပြု
လက်မှတ်ရေးထိုးပါသည်။

အငှားချထားခြင်းခံရသူ

Mandalay Dry Port Co., Ltd.

ဦးကျော်လွင်ဦး၊အုပ်ချုပ်မှုဒါရိုက်တာမှ
လက်မှတ်ရေးထိုးပါသည်။

အသိသက်သေများ

လက်မှတ်.................................
အမည် ဦးဝင်းရှိန်
ရာထူး/တာဝန် အတွင်းရေးမှူး

လက်မှတ် .................................
အမည် ဦးအောင်မင်းဟန်
ရာထူး/တာဝန် ဒါရိုက်တာ

မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့ပိုင် ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်၊
ဝလိပ်ဘူတာအနီးရှိ

မြေဧရိယာ ၁၄.၀၅ ဧကရှိ မြေကွက်တွင်

**Ever Flow River Logistics & Distribution Center (Mandalay) Co.,Ltd**

မှ

ကုန်းတွင်းကွန်တိန်နာဆိပ်တည်ဆောက်ပြီး **BOT** စနစ်ဖြင့် လုပ်ကိုင်ရန်
မြေငှားရမ်းခြင်း သဘောတူစာချုပ်ကို ပြင်ဆင်သည့်
ပြင်ဆင်ချက် သဘောတူစာချုပ်

ရက်စွဲ။ ။၂၀၁၇ ခုနှစ်၊ ဩဂုတ်လ

## မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ပိုင် ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်၊ ပလိပ်ဘူတာအနီးရှိ မြေဧရိယာ ၁၄.၀၅ ဧကရှိမြေကွက်တွင် ကုန်းတွင်းကွန်တင်နာဆိပ် တည်ဆောက်ပြီး BOT စနစ်ဖြင့်လုပ်ကိုင်ရန်မြေငှားရမ်းခြင်းသဘောတူစာချုပ်ကို ပြင်ဆင်သည့် ပြင်ဆင်ချက်သဘောတူစာချုပ်

ဤ ပြင်ဆင်ချက်စာချုပ်ကို ၂၀၁၇ ခုနှစ်၊ ဩဂုတ်လ (၉) ရက်နေ့တွင် မန္တလေးမြို့၌ ဦးဇာနည်အောင်၊ ရာထူး - ဝန်ကြီး၊ လျှပ်စစ်၊ စွမ်းအင်နှင့်ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ ကိုယ်စားပြုသော မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ (နောင်တွင် "အငှားချထားသူ" ဟုခေါ်ဆိုမည်ဖြစ်ပြီးအဆိုပါ စကားရပ်၌ ယင်းအားဆက်ခံသူများ၊ ဥပဒေအရလွှဲအပ်ခြင်းခံရသူများ ပါဝင်သည်) ကတစ်ဖက် နှင့်

ဦးကျော်လွင်ဦး၊ နိုင်ငံသားစိစစ်ရေးကတ်ပြားအမှတ် ၁၂/ကမရ(နိုင်) ၀၀၉၂၂၂၊ အုပ်ချုပ်မှုဒါရိုက်တာကိုယ်စားပြုသော မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ တရားဝင်ဖွဲ့စည်းထားသော အမှတ် (၃၉)၊ ယူနိုက်တက်ကွန်ဒို၊ စတုတ္ထထပ်၊ အလံပြဘုရားလမ်း၊ ဒဂုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင်တည်ရှိသည့် Ever Flow River Logistics & Distribution Center (Mandalay) Co., Ltd. (နောင်တွင် "အငှားချထားခြင်းခံရသူ" ဟုခေါ်ဆိုမည်ဖြစ်ပြီး အဆိုပါစကားရပ်၌ ယင်းအားဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များ၊ ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်)ကအခြားတစ်ဖက်တို့သည် ဤသဘောတူစာချုပ်ကိုနှစ်ဖက်သဘောတူချုပ်ဆိုကြပါသည် -

(က) အငှားချထားသူ နှင့် အငှားချထားခြင်းခံရသူတို့သည် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ပိုင် ပလိပ်သစ်ဆိပ် မြေဧရိယာ ၁၄.၀၅ ဧကရှိမြေကွက်တွင် ကုန်းတွင်းကွန်တင်နာ Dry Port တည်ဆောက်ပြီး BOT စနစ်ဖြင့်လုပ်ကိုင်ရန် မြေငှားရမ်းခြင်းသဘောတူစာချုပ် ကို ၂၅-၂-၂၀၁၆ ရက်နေ့တွင် ချုပ်ဆို၍ ငှားရမ်းခဲ့သည်ကတစ်ကြောင်း၊

(ခ) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၏ ၃၀-၁-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ ရက - ၁၀/၁/၂၀၁၇ (၀၁၀၆၂) စာဖြင့် ပဏာမသဘောတူခွင့်ပြုခဲ့ပြီးဖြစ်သည်ကတစ်ကြောင်း၊

(ဂ) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး၏ ၆-၁-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ ၂/၃-၄/၂၄ ဦး ၆ (၀၀၈) ပါစာဖြင့် "၂၂-၁၂-၂၀၁၆ ရက်နေ့တွင် ကျင်းပပြုလုပ်သောတိုင်းဒေသကြီးအစိုးရအဖွဲ့၊ အစည်းအဝေးအမှတ်စဉ် ၁၈/၂၀၁၆ ဆုံးဖြတ်ချက် အပိုဒ် ၁၇ အရ" စာချုပ်တွင်ပါရှိသည့် အပိုဒ် (၁) ကိုဖြုတ်ရန်၊ စာချုပ်ပြင်ဆင်ချုပ်ဆိုရန်၊ အမည်ပြောင်းလဲခွင့်နှင့်ပတ်သက်၍ သဘောတူကြောင်း၊ အမှာစာကိုကန့်ကွက်ရန်မရှိကြောင်း" ဟုဆုံးဖြတ်ခဲ့ပြီးဖြစ်သည်ကတစ်ကြောင်း၊

(ဃ) မူလစာချုပ်ပါ အငှားချထားခြင်းခံရသူဖြစ်သောကုမ္ပဏီ၏အမည်အား "Ever Flow River Logistics & Distribution Center (Mandalay) Co., Ltd. " အမည်သို့ ပြောင်းလဲလိုခြင်းတို့ကြောင့် ဤပြင်ဆင်ချက်သဘောတူစာချုပ်ကို စာချုပ်ဝင်များအကြား ချုပ်ဆိုခြင်းဖြစ်ပါသည် -

၁။ မူလစာချုပ်၌ ဖော်ပြထားသော "Mandalay Dry Port Co., Ltd. အမည်အားပယ်ဖျက်၍ အောက်ပါအမည်ဖြင့် အစားထိုးပြင်ဆင်ရမည် -

"Ever Flow River Logistics & Distribution Center (Mandalay) Co., Ltd."

၂။ မူလစာချုပ်အပိုဒ် ၄ အငှားချထားခြင်းခံရသူ လိုက်နာရန် စည်းကမ်းချက်များ၊ တာဝန်နှင့် အခွင့်အရေးများခေါင်းစဉ်အောက်ရှိအပိုဒ်ခွဲ (ခ) (၁) ကိုပယ်ဖျက်ရမည်။

၃။ ဤပြင်ဆင်ချက်သဘောတူစာချုပ်သည် မူလစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်စေရမည်။

၄။ ဤပြင်ဆင်ချက်သဘောတူစာချုပ်ပါ ပြင်ဆင်သည့် အချက်များမှအပမူလစာချုပ်ပါ ကျန်စည်းကမ်းချက်များသည် ပြောင်းလဲမှုမရှိဘဲဆက်လက်၍ အကျိုးသက်ရောက်မှုရှိစေရမည်။

၅။ ဤပြင်ဆင်ချက်သဘောတူစာချုပ်သည် နှစ်ဖက်စာချုပ်ဝင်တို့ လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်မှုရှိစေရမည်။

အထက်ဖော်ပြပါ စည်းကမ်းချက်များကိုသဘောတူလက်ခံပါသဖြင့် အောက်ပါအသိသက်သေများ ရှေ့မှောက်တွင် ၂၀၁၇ ခုနှစ်၊ ဩဂုတ်လ (၉)ရက်နေ့တွင် လက်မှတ်ရေးထိုးကြပါသည် -

9/8/2017

ဦးဇာနည်အောင်
ဝန်ကြီး
လျှပ်စစ်၊ စွမ်းအင်နှင့်ဆောက်လုပ်ရေးဝန်ကြီးဌာန
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ (ကိုယ်စား)

ဦးကျော်လွင်ဦး
အုပ်ချုပ်မှုဒါရိုက်တာ
Ever Flow River Logistics & Distribution Center
(Mandalay) Co., Ltd. (ကိုယ်စား)

အသိသက်သေများ

| | |
|---|---|
| လက်မှတ် ________ | လက်မှတ် ________ |
| အမည် - ဦးမြင့်တင် | အမည် - ဦးအောင်မင်းဟန် |
| ရာထူးတာဝန် - အတွင်းရေးမှူး | ရာထူးတာဝန် - ဒါရိုက်တာ |
| မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ | Ever Flow River Logistics & Distribution Center (Mandalay) Co., Ltd |

ပုံစံ-(၁၅)က

မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့

လယ်မြေမှတစ်ပါး လယ်ယာမြေအား အခြားနည်းအသုံးပြုရန် ခွင့်ပြုမိန့်

မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်၊ ပလိပ်ဘူတာအနီးရှိ ပလိပ်သစ်ဆိပ်မြေအား မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့အမည်ဖြင့် လယ်ယာမြေ ဥပဒေပုဒ်မ ၂၉ နှင့် ၃၀ တို့အရ အောက်ဖော်ပြပါ လယ်မြေမှတစ်ပါး လယ်ယာမြေကို သတ်မှတ်ထားသည့် စည်းကမ်းချက်များနှင့်အညီ အခြားနည်း အသုံးပြုခွင့်ပြုလိုက်သည်။

အခြားနည်းအသုံးပြုခွင့်ပြုသည့် လယ်မြေမှတစ်ပါး လယ်ယာမြေအကြောင်းအရာ

မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်

| စဉ် | ရပ်ကွက်/ ကျေးရွာ အုပ်စု | ကွင်း/ အကွက် အမှတ်နှင့် အမည် | ဦးပိုင် အမှတ် | မြေမျိုး | ခွင့်ပြုသည့် ဧရိယာ | | ခွင့်ပြုသည့် နည်းလမ်း | မှတ်ချက် |
|---|---|---|---|---|---|---|---|---|
| | | | | | ဧက | ဒသမ | | |
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ |
| ၁ | ပလိပ် | ၂၀-ခ အလျှား အနောက် ကွင်း | ၃၇၊<br>၃၈၊<br>၆၀-က/၁၊<br>၆၀-က/၂၊<br>၆၀-ခ/၁၊<br>၆၀ဃ<br>အခြား မြေ(OA) | လ/န -၃၉ မြေ | ၁<br>၀<br>၄<br>၁<br>၀<br>၄<br>၂ | ၁၄<br>၅၇<br>၀၄<br>၀၀<br>၁၂<br>၉၂<br>၃၆ | ကုန်းတွင်းကွန်တိန်နာ စခန်းစီမံကိန်းမြေ | ခွင့်ပြုသည့်နေ့မှ(၆)လ အတွင်း အသုံး မပြုလျှင် ပြန်လည်သိမ်းယူနိုင်သည်။ |
| | | | | ပေါင်း | ၁၄ | ၀၅ | | |

သက်သေခံမြေပုံပူးတွဲထားပါသည်။

မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏( ၄. ၂. ၂၀၁၆ )ရက်နေ့ အစည်းအဝေးအမှတ်စဉ် (၄/၂၀၁၆)ဆုံးဖြတ်ချက် အပိုဒ်-၁၀၁ အရ လက်မှတ်ရေးထိုးထုတ်ပေးခြင်းဖြစ်သည်။

(ဝင်းရှိန်)
အတွင်းရေးမှူး
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့
မန္တလေးမြို့

စာအမှတ်၊ ၂/ ၃ - ၃ / ၇ ဦး ၆ (၂၁၇)
ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၂ ရက်

# နိုင်ငံတကာအဆင့်မှီ Dry port စီမံကိန်းဆောင်ရွက်မည့်တည်နေရာပြမြေပုံ




| စဉ် | အမည် | ကွင်း | ဦးပိုင် | ဧရိယာ | | မှတ်ချက် |
|---|---|---|---|---|---|---|
| | | | | ဧက | ဒသမ | |
| ၁ | | ၂၀-ခ | ၃၇ | ၁ | ၁၄ | |
| ၂ | | ။ | ၃၈ | ၀ | ၄၇ | |
| ၃ | | ။ | ၆၀က/၁ | ၄ | ၀၄ | |
| ၄ | | ။ | ၆၀က/၂ | ၁ | ၀၀ | |
| ၅ | | ။ | ၆၀ခ/၁ | ၀ | ၁၂ | |
| ၆ | | ။ | ၆၀ဃ | ၄ | ၆၂ | |
| ၇ | | ။ | | ၂ | ၃၆ | ကျန်အခြားမြေ |
| | | | | ၁၄ | ၀၅ | |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
မန္တလေးမြို့

စာအမှတ်၊ ၂/၃-၅/၂၂ ဦး ၆(၀၅၇)
ရက်စွဲ၊၂၀၁၄ခုနှစ်၊ ဖေဖော်ဝါရီလ ၂၈ ရက်

သို့

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
နေပြည်တော်

အကြောင်းအရာ။ **ရန်ကုန်-မန္တလေး ကွန်တိန်နာရထားစီမံကိန်းအတွက် ကုန်းတွင်းဆိပ် ကွန်တိန်နာစခန်း( Dry Port ) စီမံကိန်း မြေတောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ (၂၂. ၁. ၂၀၁၄) ရက်စွဲပါ စာအမှတ်၊ ၂ / ၂၂၀(ခ) (၄) (၄၇၄ /၂၀၁၄ )

၁။ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ တိုင်းဒေသကြီးအတွင်း ကုန်စည်ပို့ဆောင်မှုဖွံ့ဖြိုးလွယ်ကူစေရေးအတွက် ရန်ကုန်-မန္တလေး ကွန်တိန်နာရထားစီမံကိန်းအား စီစဉ်လျက်ရှိပြီး ကုန်းတွင်းဆိပ်ကွန်တိန်နာစခန်း ( Dry Port ) တစ်ခု လိုအပ်နေပါသည်။

၂။ ကုန်းတွင်းဆိပ်ကွန်တိန်နာစခန်းတစ်ခု တည်ဆောက်ရန်အတွက် မြေနေရာရှာဖွေခဲ့ရာ စဉ့်ကိုင်မြို့နယ်၊ ပလိပ်ဘူတာအနီးရှိ ပလိပ်သစ်ဆိပ်မြေ၊ ကွင်းအမှတ်(၂၀-ခ)၊ အင်းလျားတောင်ကွင်း၊ ဦးပိုင်အမှတ်( အန်-၁မှ အန်-၃၊ အန်-၅၊ ၃၆-ခ၊ ၃၇၊ ၃၈၊ ၆၀-က/၁၊ ၆၀-က/၂၊ ၆၀-ခ/၁၊ ၆၀-ဃ မြေ(၂၃.၂၆)ဧက၊ အိုအေ(အခြားမြေ) (၅.၇၄)ဧက၊ စုစုပေါင်း(၂၉.၀)ဧကကို ရှာဖွေတွေ့ရှိခဲ့ရာ အဆိုပါမြေသည် မန္တလေးတိုင်းအေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီက (၂၀.၃.၂၀၀၂) ရက်စွဲဖြင့် လယ်ယာမြေကို လက်ထောက်အထွေထွေမန်နေဂျာ(ဖောင်ဖွဲ့ရေး) ၊ မြန်မာ့သစ်လုပ်ငန်း၊ မန္တလေးဖောင်ဖွဲ့ရေးဒေသ၊ မန္တလေးမြို့အမည်ဖြင့် လန(၃၉) ရရှိထားသည့်မြေဖြစ်သဖြင့်၊ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့သို့ လွှဲပြောင်းပေးနိုင်ရန် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနသို့ ညှိနှိုင်းခဲ့ခြင်းအပေါ်လွှဲပြောင်းပေးနိုင်မည်ဖြစ်ပါကြောင်းနှင့်ဌာနဆိုင်ရာမြေဖြစ်နေပါ၍ [redacted] အညီ ပြည်ထောင် [redacted]

၃။ [redacted] -မန္တလေး [redacted] အသုံးပြုခွင့်ရရှိရေး မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့သို့ လွှဲပြောင်း [redacted] အတွက် လိုအပ်သော လမ်းညွှန်မှုပြုနိုင်ပါရန် တင်ပြအပ်ပါသည်။

ဝန်ကြီးချုပ်
( ကျော်ဆန်း၊ လမ်းပန်းဆက်သွယ်ရေးဝန်ကြီး)

မိတ္တူကို

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ နေပြည်တော်
မန္တလေးတိုင်းဒေသကြီးလမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန
လှည့်လည်စာတွဲ၊
ရုံးလက်ခံ။

စာ-၄ D / d / Yar Zar Soe / Feb letter (2014) (17)

ပုံစံ (၃၃)

တိုင်းအေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ
မန္တလေးတိုင်း၊ မန္တလေးမြို့

လယ်ယာမြေကိုသတ်မှတ်သည့်နည်းလမ်းအတိုင်းအသုံးချရန်ဆင့်ဆိုသည့်အမိန့်

(အမိန့်အမှတ်၊ ၆/၂၀၀၂)

၁၃၆၃-ခုနှစ်၊ တပေါင်းလဆန်း ၇ ရက်
၂၀၀၂-ခုနှစ်၊ မတ်လ ၂၀ ရက်

၁၉၅၃-ခုနှစ်၊ လယ်ယာမြေနိုင်ငံပိုင်ပြုလုပ်ရေးအက်ဥပဒေပုဒ်မ ၃၉ လယ်ယာမြေကိုသတ်မှတ်သည့်နည်းလမ်းအတိုင်းအသုံးချစေရန်ဆင့်ဆိုပေးပိုင်ခွင့်ကိစ္စနှင့်ပတ်သက်၍ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့ရုံး၏(၂၂-၁၁-၈၇)ရက်စွဲပါစာအမှတ်၊ ၁၀/၆၀၁-ဆ/အဖရ ဖြင့်လုပ်ပိုင်ခွင့်အာဏာအပ်နှင်းချက်အရ အောက်ပါဇယားတွင်ဖော်ပြသည့်လယ်ယာမြေကိုစိုက်ပျိုးမှုမှအပစာတိုင်(၈)တွင်ဖော်ပြသောနည်းလမ်းအတိုင်းအသုံးချရမည်ဖြစ်ကြောင်း (၄-၃-၂၀၀၂) ရက်နေ့တွင်ပြုလုပ်သည့်တိုင်းအေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၊ အစည်းအဝေးအမှတ်စဉ်(၆/၂၀၀၂)တွင်တင်ပြဆုံးဖြတ်ချက်ဖြင့်လက်ထောက်အထွေထွေမန်နေဂျာ (ဖေါင်ဖွဲ့ရေး) မြန်မာ့သစ်လုပ်ငန်း၊ မန္တလေး ဖေါင်ဖွဲ့ရေးဒေသ၊ မန္တလေးမြို့အား ခွင့်ပြုလိုက်သည်-

| တိုင်း | မြို့နယ် | ကျေးရွာအုပ်စု | ကွင်း/အကွက် | | ဦးပိုင်/ဧရိယာ | | အသုံးချရမည့်နည်းလမ်း | ဇယားကွက်ပုံအမှတ်တွဲအမှတ် |
|---|---|---|---|---|---|---|---|---|
| | | | အမှတ် | အမည် | အမှတ် | ဧက | | |
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ |
| မန္တလေး | စဉ့်ကိုင် | ပလိပ် | ၂၀-ခ | အလျှံ့ား တောင် | အန်-၁ မှ အန်-၃၊ အန်-၅၊ ၃၆-ခ၊ ၃၇၊ ၃၈၊ ၆၀က/၁၊ ၆၀က/၂၊ ၆၀-ခ/၁၊ ၆၀-ဃ။ | ၂၃.၂၆ | ပလိပ်သစ်ဆိပ်မြေ | ၅/၂၀၀၂ |
| | | | | | အိုအေ။ (အခြား) | ၅.၇၄ | | |
| | | | | | ပေါင်း | ၂၉.၀၀ | | |

မှတ်ချက်။ (က) ဤဇယားတွင်ဖော်ပြသောလယ်ယာမြေကိုမြေစာရင်းဦးစီးဌာနစာရင်းတွင် ပလိပ်သစ်ဆိပ်မြေအဖြစ်ပြောင်းလဲရန် ၁၉၅၄ခုနှစ်၊ လယ်ယာမြေနိုင်ငံပိုင်ပြုလုပ်ရေးနည်းဥပဒေပုဒ်မ ၈၄ အရ ခွင့်ပြုသည်၊

(ခ) ဤဇယားကွက်(၈)၌ဖော်ပြသောနည်းလမ်းအတိုင်းလယ်ယာမြေကိုအသုံးမချလျှင်ဤအမိန့်ကိုအက်ဥပဒေ၏ပုဒ်မ ၃၅ အရပယ်ဖျက်မည့်အပြင်ဤအမိန့်ကိုလိုက်နာရန်ပျက်ကွက်သူသည်အက်ဥပဒေ၏ပုဒ်မ ၄၈ အရပြစ်ဒဏ်ချမှတ်ခြင်းခံရမည်၊

(ဂ) အထက်ဖော်ပြပါဦးပိုင်အမှတ်နှင့်ဧရိယာများကို(၂၀၀၁-၂၀၀၂)ခုနှစ်၊ နောက်ဆက်တွဲမြေပုံစာရင်းများမှကောက်နုတ်သုံးစွဲသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(ဒုတိယဗိုလ်မှူးကြီး တင်အုန်း၊ အတွင်းရေးမှူး)

စာအမှတ်၊ ၅/၅-၄၃-၂၃၇/ဦး ၆
ရက်စွဲ၊ ၂၀၀၂-ခုနှစ်၊ မတ်လ ၂၀ ရက်။

မိတ္တူကို -

(၁) လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ ရန်ကုန်
(၂) တိုင်းအထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ မန္တလေး
(၃) တိုင်းမြေစာရင်းဦးစီးဌာန၊ မန္တလေး (သက်ဆိုင်ရာ မြေစာရင်း မြေပုံတွင်မှတ်သား ရေးသွင်းနိုင်ရေး အတွက်ညွှန်ကြားပေးသွားရန်။ )
(၄) ခရိုင်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၊ ကျောက်ဆည်
(၅) ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ ကျောက်ဆည်
(၆) ခရိုင်မြေစာရင်းဦးစီးဌာန၊ ကျောက်ဆည်
(၇) မြို့နယ်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၊ စဉ့်ကိုင်
(၈) မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ စဉ့်ကိုင်
(၉) မြို့နယ်မြေစာရင်းဦးစီးဌာန၊ စဉ့်ကိုင်
(၁၀) ကျေးရွာအုပ်စုအေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၊ ပလိပ်ကျေးရွာအုပ်စု၊ စဉ့်ကိုင်မြို့နယ်
(၁၁) လျှောက်ထားသူ- လက်ထောက်အထွေထွေမန်နေဂျာ (ဖေါင်ဖွဲ့ရေး) ပြန်ပွားသစ်လုပ်ငန်း၊ မန္တလေး ဖေါင်ဖွဲ့ရေးဒေသ မန္တလေးမြို့။

မြို့နယ်မြေစာရင်းဦးစီးဌာန
စာအမှတ်.......
ရက်စွဲ..........
စဉ့်ကိုင်မြို့

မြို့ နယ် မြေ စာ ရင်း ဦး စီး ဌာ န
စဉ့်ကိုင်မြို့။
စာအမှတ်၊ ၀၆၉ /မယ - ၂
ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ ဇွန် လ၊ ၃ ရက်

သို့

တိုင်းဒေသကြီးမြေစာရင်းဦးစီးဌာနမှူး
တိုင်းဒေသကြီးမြေစာရင်းဦးစီးဌာန
မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့

ရက်စွဲ၊ ၃.၆.၂၀၁၄

အကြောင်းအရာ။ ။ ပလိပ်သစ်ဆိပ်မြေနေရာ၏စာရင်းမြေပုံများပြုစုတင်ပြခြင်း။
ရည်ညွှန်းချက် ။ ။ကျောက်ဆည်ခရိုင်မြေစာရင်းဦးစီးဌာန၏ (၁၂.၅.၂၀၁၄)ရက်စွဲပါစာအမှတ်၊ ၁၉၅/မအ - ၆ အရ။

အထက်အကြောင်းအရာပါကိစ္စ နှင့် ပတ်သက်၍ စဉ့်ကိုင်မြို့နယ်၊ ပလိပ်အုပ်စု၊ ကွင်းအမှတ်(၂၀.ခ)၊ အလျားတောင်ကွင်း၊ ဦးပိုင်အမှတ်(၃၇၊ ၃၈၊၆၀.က/၁၊ ၆၀.က/၂၊ ၆၀.ခ/၁၊ ၆၀.ဃ)၊ ဧရိယာ(၁၆.၂၆)ဧက ရှိပါသည်။ အန်-၁၊ အန်-၃၊ အန်-၅ နှင့် အခြားမြေဧရိယာတို့မှာ တောင်သူလျော်ကြေးစာရင်း အနေဖြင့် လ/န(၃၉)လျှောက်ထားစဉ်က စာရင်းထပ်သွား၍ ဧရိယာစုစုပေါင်း(၂၉.၀၀)ဧကဖြင့် လွဲမှား၍ လျှောက်ထားခဲ့ပါသည်။ အမှန်တကယ်မြေပြင်ဧရိယာမှာ ဦးပိုင်ပေါက်မြေ(၁၆.၂၆)ဧကရှိပြီး အခြားမြေဧရိယာ (၂.၇၉)ဧကရှိ၍ အမှန်မြေပြင်ဧရိယာ နှင့် မြေပုံပေါ်အမှန်ရှိဧကမှာ (၁၉.၀၆)ဧက ရှိကြောင်း တင်ပြအပ်ပါသည်။

ဦးစီးအရာရှိ
မြို့နယ်မြေစာရင်းဦးစီးဌာန
စဉ့်ကိုင်မြို့

မိတ္တူကို -

- ခရိုင်မြေစာရင်းဦးစီးဌာန၊ ကျောက်ဆည်ခရိုင်၊ ကျောက်ဆည်မြို့။
- မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ စဉ့်ကိုင်မြို့။
- ရုံးလက်ခံ

ပုံစံ-(၁၅)က

မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့

လယ်မြေမှတစ်ပါး လယ်ယာမြေအား အခြားနည်းအသုံးပြုရန် ခွင့်ပြုမိန့်

မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်၊ ပလိပ်ဘူတာအနီးရှိ ပလိပ်သစ်ဆိပ်မြေအား မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့အမည်ဖြင့် လယ်ယာမြေ ဥပဒေပုဒ်မ ၂၉ နှင့် ၃၀ တို့အရ အောက်ဖော်ပြပါ လယ်မြေမှတစ်ပါး လယ်ယာမြေကို သတ်မှတ်ထားသည့် စည်းကမ်းချက်များနှင့်အညီ အခြားနည်း အသုံးပြုခွင့်ပြုလိုက်သည်။

အခြားနည်းအသုံးပြုခွင့်ပြုသည့် လယ်မြေမှတစ်ပါး လယ်ယာမြေအကြောင်းအရာ

မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်

| စဉ် | ရပ်ကွက်/ ကျေးရွာ အုပ်စု | ကွင်း/ အကွက် အမှတ်နှင့် အမည် | ဦးပိုင် အမှတ် | မြေမျိုး | ခွင့်ပြုသည့် ဧရိယာ | | ခွင့်ပြုသည့် နည်းလမ်း | မှတ်ချက် |
|---|---|---|---|---|---|---|---|---|
| | | | | | ဧက | ဒဿမ | | |
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ |
| ၁ | ပလိပ် | ၂၀-ခ အင့်ချား အနောက် ကွင်း | ၃၇၊<br>၃၈၊<br>၆၀-က/၁၊<br>၆၀-က/၂၊<br>၆၀-ခ/၁၊<br>၆၀ဃ<br>အခြား မြေ(OA) | လ/န -၃၉ မြေ | ၁<br>၀<br>၄<br>၁<br>၀<br>၄<br>၂ | ၁၄<br>၄၇<br>၀၄<br>၀၀<br>၁၂<br>၉၂<br>၃၆ | ကုန်းတွင်းကွန်တိန်နာ စခန်းစိမံကိန်းမြေ | ခွင့်ပြုသည့် နေ့မှ(၆)လ အတွင်း အသုံး မပြု လျှင် ပြန် လည်သိမ်း ယူနိုင် သည်။ |
| | | | | ပေါင်း | ၁၄ | ၀၅ | | |

သက်သေခံမြေပုံပူးတွဲထားပါသည်။

မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏( ၄. ၂. ၂၀၁၆ )ရက်နေ့ အစည်းအဝေးအမှတ်စဉ် (၄/၂၀၁၆)ဆုံးဖြတ်ချက် အပိုဒ်-၁၀၁ အရ လက်မှတ်ရေးထိုးထုတ်ပေးခြင်းဖြစ်သည်။

ရုံးတံဆိပ်

(ဝင်းရှိန်)
အတွင်းရေးမှူး
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့
မန္တလေးမြို့

စာအမှတ်၊ ၂/ ၃ - ၃ / ၇ ဦး ၆ ( ၊ )
ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၂ ရက်

# နိုင်ငံတကာအဆင့်မှီ Dry port စီမံကိန်းဆောင်ရွက်မည့်တည်နေရာပြမြေပုံ




| စဉ် | အမည် | ကွင်း | ဦးပိုင် | ဧရိယာ | | မှတ်ချက် |
|---|---|---|---|---|---|---|
| | | | | ဧက | ဒသမ | |
| ၁ | | ၂၀-ခ | ၃၇ | ၁ | ၁၄ | |
| ၂ | | ။ | ၃၈ | ၀ | ၄၇ | |
| ၃ | | ။ | ၆၀က/၁ | ၄ | ၀၄ | |
| ၄ | | ။ | ၆၀က/၂ | ၁ | ၀၀ | |
| ၅ | | ။ | ၆၀ခ/၁ | ၀ | ၁၂ | |
| ၆ | | ။ | ၆၀ဃ | ၄ | ၆၂ | |
| ၇ | | ။ | | ၂ | ၃၆ | ကျန်အခြားမြေ |
| | | | | ၁၄ | ၀၅ | |

# တည်နေရာပြမြေပုံကြမ်း
## (ပလိပ် သစ်ကွင်း)

ကွင်းအမှတ် - ၂၀.ခ
ပလိပ်အုပ်စု
စဥ့်ကိုင်မြို့နယ်




သစ်ကွင်းဧရိယာ **၁၉.၀၅** ဧက

ဦးစီးအရာရှိ
မြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာန
စဥ့်ကိုင်မြို့။

လက်ထောက်ဦးစီးမှူး
လယ်ယာမြေစီမံခန့်ခွဲရေးနှင့်
စာရင်းအင်း ဦးစီးဌာန
စဥ့်ကိုင်မြို့။

မြေတိုင်း-၄
လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာန
စဥ့်ကိုင်မြို့။

N

# သစ်ထုတ်လုပ်ရေးဌာနပိုင်မြေ(ပလိပ်သစ်ဆိပ်)
# မြောက်ဘက်ခြမ်းတွင် ချန်လှပ်ထားမည့်
# တည်နေရာပြမြေပုံ

ကွင်းအမှတ် - ၂၀.ခ
ပလိပ်အုပ်စု
စဉ့်ကိုင်မြို့နယ်



| စဉ် | အမည် | ကွင်း | ဦးပိုင် | ဧရိယာ | | မှတ်ချက် |
|---|---|---|---|---|---|---|
| | | | | ကေ | ဒဿမ | |
| ၁ | | ၂၀.ခ | ၃၆.ခ/၁ | ၁ | ၂၁ | |
| ၂ | | ။ | ၃၇ | ၀ | ၂၈ | |
| ၃ | | ။ | ၃၈ | ၀ | ၃၈ | |
| ၄ | | ။ | ၆၀.က/၁ | ၁ | ၄၃ | |
| ၅ | | ။ | ၆၀.ခ/၁ | ၁ | ၂၈ | |
| ၆ | | | | ၀ | ၄၃ | ကျန်အခြားမြေ |
| | | | | ၅ | ၀၁ | |

# တည်နေရာပြမြေပုံကြမ်း




ရည်ညွှန်းချက်

| | | |
|---|---|---|
| ၁။ မူလသစ်ဆိပ်ဧရိယာ | ၁၉.၀၅ | ဧက |
| ၂။ သစ်တောဦးစီးဌာနအတွက် ချန်လှပ်ထားမည့်နေရာ | ၅.၀၁ | ဧက |
| ၃။ Mandalay Dry Port လုပ်ငန်းအကောင်အထည်ဖော်မည့်နေရာ | ၁၄.၀၄ | ဧက |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

| |
|---|
| ဌာနခွဲ (၃၊၄)၊ ဌာနစု (၅၊၆၊၇၊၈) |
| စာအမှတ် - ၀၅၁ |
| ရက်စွဲ၊ ၂၇.၁.၂၀၁၄ အချိန် ၁၅:၃၀ |

စာအမှတ် ၂/၂၂၀(ခ)(၄)( ၄၇၄ /၂၀၁၄)
ရက်စွဲ ၂၀၁၄ခုနှစ်၊ ဇန်နဝါရီလ ၂၂ ရက်

သို့
✓ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့

အကြောင်းအရာ။ ရန်ကုန် - မန္တလေးကွန်တိန်နာ ရထားစီမံကိန်းအတွက် ကုန်းတွင်းဆိပ်ကွန်တိန်နာစခန်း(Dry Port) စီမံကိန်းမြေ တောင်းခံခြင်းကိစ္စ

ရည် ညွှန်း ချက်။ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး၏ ၂၄-၁၀-၂၀၁၃ ရက်စွဲပါစာအမှတ်၊ ၂/၃-၅/၂၂/ဦး/၆(၃၀၉)

အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ ရည်ညွှန်းစာအရ မန္တလေးတိုင်းဒေသကြီး၊ ကုန်စည်ပို့ဆောင်မှု လွယ်ကူချောမွေ့စေရေးအတွက် ရန်ကုန် - မန္တလေး ကွန်တိန်နာရထား စီမံကိန်းအတွက် ကုန်းတွင်းဆိပ် ကွန်တိန်နာစခန်း (Dry Port) စီမံကိန်းဆောင်ရွက်ရန် မြန်မာ့သစ်လုပ်ငန်း၊ မန္တလေးတိုင်းဒေသကြီးမှ ဌာနပိုင် ပလိပ်သစ်ဆိပ်မြေနေရာ အကျယ် (၂၉.၀)ဧကအား လွှဲပြောင်းအပ်နှံရန် ညှိနှိုင်းချက်အပေါ် ၂၀၁၃ခုနှစ် ၊ ဒီဇင်ဘာလ(၅) ရက်နေ့တွင် ကျင်းပပြုလုပ်သော (၂၆/၂၀၁၃)ကြိမ်မြောက် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ စီမံခန့်ခွဲမှုကော်မတီ အစည်းအဝေး ဆုံးဖြတ်ချက်အရ မြန်မာ့သစ်လုပ်ငန်း၊ မန္တလေးတိုင်းဒေသကြီးထံမှ ပလိပ်သစ်ဆိပ်မြေနေရာ (၂၉.၀)ဧကအား မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့သို့ လွှဲပြောင်းပေးနိုင်မည်ဖြစ်ပါကြောင်းနှင့် ဌာနဆိုင်ရာမြေ ဖြစ်နေပါ၍ လုပ်ထုံးလုပ်နည်းနှင့်အညီ ပြည်ထောင်စုအစိုးရအဖွဲ့ရုံးသို့ တင်ပြတောင်းခံရန် ဖြစ်ပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
( မျိုး ဝင်း ၊ ဦး အဖွဲ့ မှူး )

မိတ္တူ - ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
- ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း

အတွင်းရေး (stamp)

စာအမှတ် ၄၇၉

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ ၃.၃.၂၀၁၄ အချိန် ၁၄ ၃၀

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

စာအမှတ်၊ ၄၆၄ /၃၀၉-မြေ ၁-၁၄(၃)/အဖရ(၂၀၁၄)
ရက်စွဲ ၊ ၂၀၁၄ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၅ ရက်

သို့

ပြည်ထောင်စုဝန်ကြီး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ဝန်ကြီးချုပ်
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့

အကြောင်းအရာ။ **ရန်ကုန်-မန္တလေး ကွန်တိန်နာရထားစီမံကိန်းအတွက် ကုန်းတွင်းဆိပ်ကွန်တိန်နာစခန်း (Dry Port) စီမံကိန်း မြေတောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၂၀-၂-၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ၂/၃-၅/ ၂၂ ဦး ၆ (၀၅၇)

ကုန်စည်ပို့ဆောင်မှုဖွံ့ဖြိုးလွယ်ကူစေရေးအတွက် ရန်ကုန်-မန္တလေး ကွန်တိန်နာရထားစီမံကိန်းအား စီစဉ်လျက်ရှိရာ ကုန်းတွင်းဆိပ်ကွန်တိန်နာစခန်း (Dry Port)တစ်ခု တည်ဆောက်ရန် စဉ့်ကိုင်မြို့နယ်၊ ပလိပ်ဘူတာအနီးရှိ ပလိပ်သစ်ဆိပ်မြေ၊ ကွင်းအမှတ်(၂၀-ခ)၊ အင်းလျားတောင်ကွင်း၊ ဦးပိုင်အမှတ် အန်-(၁ မှ ၃၊ ၅) ၃၆-(ခ)၊ ၃၇၊ ၃၈၊ ၆၀-(က/၁၊ က/၂၊ ခ/၁၊ ဃ) မြေ(၂၃.၂၆) ဧက၊ အိုအေ(အခြားမြေ)(၅.၇၄)ဧက၊ စုစုပေါင်း (၂၉.၀)ဧကအား အသုံးပြုခွင့်ရရှိရေးအတွက် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့သို့ လွှဲပြောင်းပေးအပ်နိုင်ရေး ရည်ညွှန်းစာဖြင့် တင်ပြမှုနှင့်ပတ်သက်၍ လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်နိုင်ပါရန် အကြောင်းကြားအပ်ပါသည်။

ဇော်သန်းသင်း
ညွှန်ကြားရေးမှူးချုပ်

မိတ္တူ
နိုင်ငံတော်သမ္မတရုံး
ပြည်ထဲရေးဝန်ကြီးဌာန
သမ္မတရုံးဝန်ကြီးဌာန(၃)
ရုံးလက်ခံ
မျှောစာတွဲ

**ထိပ်တန်းလျှို့ဝှက်**

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး**

**မန္တလေးမြို့**

စာအမှတ်၊ ၁ / ၁ - ၁ / ၂ ဦး ၆(        )

ရက် စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ        ရက်

အ မှာ စာ

အကြောင်းအရာ။ <u>မြေဧရိယာပြောင်းလဲ လျှောက်ထားတင်ပြလာခြင်းကိစ္စ</u>

၁။ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ(၄)ရက်၊ ကြာသပတေးနေ့ ၀၉၀၀အချိန်တွင်ပြုလုပ်သော တိုင်းဒေသကြီးအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ်(၄/၂၀၁၆)မှတ်တမ်းကောက်နုတ်ချက်ကို လိုက်နာအကောင်အထည် ဖော်ဆောင်ရွက်နိုင်ပါရန် ပေးပို့အပ်ပါသည်။

၂။ မှတ်တမ်းကောက်နုတ်ချက်ကို ရရှိကြောင်းပြန်ကြားရန်နှင့် ဌာနဆိုင်ရာ အရေးယူဆောင်ရွက်ချက်ကိုလည်း ပြန်လည်အစီရင်ခံတင်ပြရန်ဖြစ်ပါသည်။

**ဇော်တင်မိုး**

**ညွှန်ကြားရေးမှူး**

<u>**ဝန်ကြီး**</u>

<u>**တိုင်းဒေသကြီးစိုက်ပျိုးရေးနှင့်မွေးမြူရေးဝန်ကြီးဌာန**</u>

၁၀၊ <u>စဉ့်ကိုင်မြို့နယ်၊ ပလိပ်ဘူတာအနီးရှိ ပလိပ်သစ်ဆိပ်မြေ၊ ကွင်းအမှတ်(၂၀-ခ)၊ ကွင်းအမည်(အင်ယားတောင်ကွင်း)၊ ဦးပိုင်အမှတ် (N-၁မှ ၃၊ ၅)၊ ၃၆-ခ၊ ၃၇၊ ၃၈၊ ၆၀-(က/၁က/၂ ခ/၁၊ ဃ)ရှိ မြေဧရိယာ (၂၃. ၂၆)ဧကနှင့် OA(အခြားမြေ) (၅. ၄၇)ဧက၊ လယ်ယာမြေနိုင်ငံပိုင်ပြုလုပ်ရေးဥပဒေပုဒ်မ-၃၉ ရရှိပြီး စုစုပေါင်းမြေဧရိယာ (၂၉. ၀၀)ဧကအား လက်ထောက်အထွေထွေမန်နေဂျာ(ဖောင်ဖွဲ့ရေး)၊ မြန်မာ့သစ်လုပ်ငန်း၊ မန္တလေးဖောင်ဖွဲ့ရေးဒေသ၊ မန္တလေးမြို့အမည်မှ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့အမည်ဖြင့်ပြောင်းလဲပြီးသည့်မြေမှ အမှန်လုပ်ကိုင်နိုင်မည့်မြေဧရိယာ(၁၄. ၀၅)ဧကသို့ ပြောင်းလဲသတ်မှတ်ပေးနိုင်ပါရန် တင်ပြလာခြင်းကိစ္စ။</u>

<u>**ဆောင်ရွက်ရန်။**</u>

<u>တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး</u>

<u>တိုင်းဒေသကြီးစိုက်ပျိုးရေးနှင့်</u>

<u>မွေးမြူရေးဝန်ကြီးဌာန</u>

မန္တလေးတိုင်းဒေသကြီးစိုက်ပျိုးရေးနှင့်မွေးမြူရေးဝန်ကြီးဌာန၏ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၃ ရက်စွဲပါအမှာစာအမှတ်၊ ၂/၃-၃/၇ဦး ၆ (၀၅၂၈)။ အမှာစာကို သဘောတူကြသည်။

**ထိပ်တန်းလျှို့ဝှက်**

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
မန္တလေးမြို့

စာအမှတ်၊ ၂/၃-၅/၂၂ ဦး ၆ (၁၈၂)
ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ ဇူလိုင်လ ၂ ရက်

သို့

ပြည်ထောင်စုဝန်ကြီး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
နေပြည်တော်

အကြောင်းအရာ။ ရန်ကုန်-မန္တလေးကွန်တိန်နာရထားစီမံကိန်းအတွက် ကုန်းတွင်းဆိပ်ကွန်တိန်နာစခန်း (Dry Port) စီမံကိန်းမြေကိစ္စ

ရည်ညွှန်းချက်။ (၁) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး၏ (၂၄-၁၀-၂၀၁၃)ရက်စွဲပါစာအမှတ် ၂/၃-၅/၂၂ ဦး ၆ (၃၀၇)

(၂) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန ၊ နေပြည်တော်၏ (၂၂-၁-၂၀၁၄)ရက်စွဲပါစာအမှတ်၊ ၂/၂၂၀ (ခ)(၄)(၄၇၄/၂၀၁၄)

(၃) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး၏ (၂၁-၂-၂၀၁၄)ရက်စွဲပါ စာအမှတ် ၂/၃-၅/၂၂ ဦး ၆ (၈၅၇)

(၄) ပြည်ထောင်စုအစိုးရအဖွဲ့ရုံး၏ (၂၅-၂-၂၀၁၄)ရက်စွဲပါစာအမှတ်၊ ၄၆၄/၃၀၉-မြေ ၁-၁၄(၃)/အပရ(၂၀၁၄)

၁။ စဉ့်ကိုင်မြို့နယ် ၊ ပလိပ်ဘူတာအနီးရှိ ပလိပ်သစ်ဆိပ်မြေနေရာအဖြစ် မြေဧရိယာ (၂၃.၂၆) ဧက၊ အိုအေ (အခြားမြေ)(၅.၇၄)ဧက၊ စုစုပေါင်း (၂၉.၀၀)ဧကအား ယခင်တိုင်းအေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီလက်ထက်တွင် လက်တောက်အတွေ့တွေ့မန်နေဂျာ ၊ ဖောင်ဖွဲ့ရေး၊ မြန်မာ့သစ်လုပ်ငန်း၊ မန္တလေးဖောင်ဖွဲ့ရေးဒေသ အမည်ဖြင့် (လန-၃၉ ) ဖြင့်ပြုခဲ့ပါသည်။

၂။ ကုန်စည်ပို့ဆောင်မှုဖွံ့ဖြိုးလွယ်ကူစေရန် ရန်ကုန်-မန္တလေး ကွန်တိန်နာရထားစီမံကိန်း ကုန်းတွင်းဆိပ်ကွန်တိန်နာစခန်း( Dry Port ) တည်ဆောက်နိုင်ရေးအတွက် ပလိပ်သစ်ဆိပ်မြေနေရာအား လွှဲပြောင်းပေးပါရန် ရည်ညွှန်း(၃)ဖြင့် တင်ပြချက်အပေါ် ပြည်ထောင်စုအစိုးရအဖွဲ့ရုံးမှ ရည်ညွှန်း(၄)ဖြင့် လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်ရန် အကြောင်းကြားလာပါသည်။

၃။ ယခုအခါ အဆိုပါမြေအား ရန်ကုန်-မန္တလေး ကုန်တင်နယ်ခွဲစခန်း ( Dry Port ) စီမံကိန်း မြေနေရာအဖြစ်အသုံးပြုနိုင်ရေးအတွက် မြေယာဝင်ဖိစစ်ဆဲ့ဗျူ အိုးဆေ(အခြားမြေ)(၂.၄၅)ဧက အပါအဝင်(၉.၉၅)ဧကသည်မီးရထားလမ်းမြေအဖြစ် ဌာနမှအသုံးပြုခဲ့ပြီး၊ ပလိပ်သစ်ဆိပ်မြေအဖြစ်ကျန်ရှိ မြေပြင်ဧရိယာအမှန်(၁၉.၈၅)ဧကကို အသုံးပြုလျက်ရှိရာ အဆိုပါမြေအား (လန-၃၉) အမည်ပြောင်းလဲ အသုံးပြုရန်အတွက် မူလချထားပေးခဲ့သော မန္တလေးမြောင်ပွဲရေးဒေသ မြန်မာ့သစ်လုပ်ငန်းမှ တိုင်းဒေသကြီးအစိုးရအဖွဲ့သို့ ပြန်လည်လွှဲပြောင်း အပ်နှံရမည်ဖြစ်ပါသည်။

၄။ သို့ပါ၍ ပလိပ်သစ်ဆိပ်မြေအဖြစ်သုံးစွဲလျက်ရှိသည့် မြေပြင်ဧရိယာအမှန်(၁၉.၈၅)ဧကအား မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့သို့ ပြန်လည်လွှဲပြောင်းအပ်နှံနိုင်ရေး လိုအပ်သလိုဆောင်ရွက်ပေးပါရန် ညှိနှိုင်းအပ်ပါသည်။

ဝန်ကြီးချုပ်( ကိုယ်စား)

( ကျော်ဆန်း၊ လမ်းပန်းဆက်သွယ်ရေးဝန်ကြီး )

မိတ္တူကို

ရထားပို့ဆောင်ရေးဝန်ကြီးဌာန ၊ နေပြည်တော်

လှည့်လည်စာတွဲ ၊

ရုံးလက်ခံ ။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန
မြန်မာ့သစ်လုပ်ငန်း
သစ်ထုတ်ရေးဌာန

စာအမှတ် ။ ၃၄၈၁ / သထရ-စရ ( ၈ ) ၂၁
ရက်စွဲ ။ ၂၀၁၄ ခုနှစ်၊ ဇူလိုင်လ ၁၈ ရက်

ဒုတိယအထွေထွေမန်နေဂျာ ၊ မန္တလေးတိုင်းဒေသကြီး

အကြောင်းအရာ ။ ။ <u>ရန်ကုန်-မန္တလေးကွန်တိန်နာရထားစီမံကိန်းအတွက် ကုန်းတွင်းသစ်ဆိပ်ကွန်တိန်နာစခန်း (Dry Port) စီမံကိန်းမြေတောင်းခံခြင်းကိစ္စ။</u>

ရည် ညွှန်း ချက် ။ ။ (၁) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီးရုံး၏၄-၃-၂၀၁၄ ရက်စွဲပါ စာအမှတ်-၂/၂၁၀(ခ)(၃)(၁၄၅၃/၂၀၁၄)(မိတ္တူပူးတွဲ)
(၂) ဤရုံး၏ ၉-၃-၂၀၁၄ ရက်စွဲပါ စာအမှတ်- ၁၇၀၈၂/ သထရ-စရ(၈)၂၁
(၃) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီးရုံး၏၉-၇-၂၀၁၄ ရက်စွဲပါ စာအမှတ်-၂/၂၂၀(ခ)(၄)(၅၀၈၀/၂၀၁၄)(မိတ္တူပူးတွဲ)

၁။ အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မန္တလေးတိုင်းဒေသကြီး၊ ကုန်စည်ပို့ဆောင် မှုလွယ်ကူချောမွေ့စေရေး၊ ရန်ကုန်-မန္တလေး ကွန်တိန်နာရထားစီမံကိန်းအတွက် ကုန်းတွင်းသစ်ဆိပ်ကွန်တိန်နာစခန်း (Dry Port) စီမံကိန်းမြေတောင်းခံခြင်းကိစ္စနှင့်ပတ်သက်၍ မြန်မာ့သစ်လုပ်ငန်း၊ မန္တလေးတိုင်းဒေသကြီးမှ ဌာနပိုင်ပလိပ်သစ်ဆိပ်မြေနေရာ အကျယ် (၂၉.၀)ကေအား သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့သို့ လွှဲပြောင်းပေးအပ်နိုင်ရေး လုပ်ထုံး/လုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်ရန် ပြည်ထောင်စု အစိုးရအဖွဲ့ရုံး၏ လမ်းညွှန်ချက်အရ ရည်ညွှန်းစာ (၁) (၂) တို့ဖြင့် ထပ်ဆင့်ညွှန်ကြားထားခဲ့ပြီးဖြစ်ပါသည်။

၂။ ရည်ညွှန်းစာ(၃)အရ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံးမှ ပလိပ်သစ်ဆိပ်မြေအဖြစ် ကျန်ရှိသည့် မြေပြင်ဧရိယာအမှန် (၁၉.၁၅)ကေအား မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့သို့ ပြန်လည်လွှဲပြောင်းအပ်နှံရေး ဆောင်ရွက်ပေးပါရန် ညှိနှိုင်းလာခြင်းကိစ္စနှင့်ပတ်သက်၍ ပြည်ထောင်စုဝန်ကြီးမှ "လုပ်ငန်းများဆက်လက်ဆောင်ရွက်ရန် (ငါး) ကေချန်လှပ်ပါမည်၊ ကျန်မြေများလွှဲပေးနိုင်ရေး လုပ်ထုံးနှင့်အညီဆောင်ရွက်ရန်" ဟုမိန့်မှတ်ချက်ပြုထားပါသည်။

၃။ သို့ဖြစ်ပါ၍ ပလိပ်သစ်ဆိပ်မြေပြင်ဧရိယာအမှန် (၁၉.၁၅)ကေအနက်မှ ဌာနလုပ်ငန်းများဆက်လက်အသုံးပြုရန် (၅)ကေ ချန်လှပ်၍ ကျန်သောမြေများကိုလည်း မန္တလေးတိုင်းဒေသကြီးအစိုးရ အဖွဲ့သို့ စနစ်တကျအမြန်ဆုံးလွှဲပြောင်းပေးအပ်ဆောင်ရွက်သွားပါရန်နှင့် ဆောင်ရွက်ပြီးစီးမှု အား ပြန်လည်တင်ပြရန် ထပ်မံအကြောင်းကြားအပ်ပါသည်။

AM(O)/ဈေး

အထွေထွေမန်နေဂျာ (သစ်ထုတ်ရေး)
( မောင်မောင်တိုး )

ဓ/ထ ထွေ့ဂျာ (ဓရေ)

မိတ္တူကို -
- လက်ထောက်အထွေထွေမန်နေဂျာ၊ မန္တလေးဖောင်ဖွဲ့ရေးဒေသ (ဆောင်ရွက်ရန်)
- ပစ္စည်းဌာနစိတ် /မျှောစာတွဲ/ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်၊ ၂/၂၂၀(ခ)(၄)/(၅၀၈၀ / ၂၀၁၄)
ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ ဇူလိုင်လ ၉ ရက်

အကြောင်းအရာ။ ရန်ကုန်-မန္တလေး ကုန်တင်ကားလမ်း စီမံကိန်းအတွက်ကုန်းတွင်းဆိပ်ကမ်းတိုက်နားစခန်း(Dry Port)စီမံကိန်းမြေကိစ္စ

၁။ အထက်ပါကိစ္စနှင့်ပတ်သက်၍ မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့ရုံး၏ ၂၀၁၄ခုနှစ်၊ ဇူလိုင်လ(၂)ရက်စွဲပါစာအမှတ်၊ ၂ / ၃ - ၅ /၂၂ ဦး ၆(၁၈၂)ဖြင့်ပေးပို့လာသော စာမိတ္တူတစ်စောင်ကို ပူးတွဲပေးပို့အပ်ပါသည်။

၂။ ယင်းစာပါ စဉ့်ကိုင်မြို့နယ်၊ပလိပ်ဘူတာအနီးရှိပလိပ်သစ်ဆိပ်မြေအဖြစ်သုံးစွဲလျက်ရှိသော မြေဧရိယာ(၁၉.၈၅)ဧကအား မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့သို့ပြန်လည်လွှဲပြောင်း အပ်နှံရေး ဆောင်ရွက်ပေးပါရန်ညှိနှိုင်းလာခြင်းကိစ္စနှင့်ပတ်သက်၍ပြည်ထောင်စုဝန်ကြီး၏အောက်ဖော်ပြပါ မိန့်မှတ်ချက်အတိုင်းဆက်လက်ဆောင်ရွက်ရန်အကြောင်းကြားအပ်ပါသည်-

<u>ဝန်ကြီး၏မှတ်ချက်</u>

- လုပ်ငန်းများဆက်လက်ဆောင်ရွက်ရန်(ငါး)ဧကချန်လှပ်ပါမည်။
- ကျန်မြေများလွှဲပေးနိုင်ရေးလုပ်ထုံးနှင့်အညီဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး ( ကိုယ်စား )
( မျိုး ဥာဏ်၊ ရုံး အ ဖွဲ့ မှူး )

ဦးဆောင်ညွှန်ကြားရေးမှူး
<u>မြန်မာ့သစ်လုပ်ငန်း</u>

D:\MOF-6 DATA\Section-B\DSM\DSM Section(B)(220)1.doc

# E.F.R Logistics and Distribution Center (Mandalay)

**Investment Plan**

**Expressed in MMK**

Annex I

| Sr No. | Particular | Phase 1 | Phase 2 | Total |
|---|---|---|---|---|
| 1 | Cash for Year 1 | 544,062,292 | | 544,062,292 |
| 2 | Value of Machinery | 1,857,000,000 | 1,265,500,000 | 3,122,500,000 |
| 3 | Value of Infrastructure Development | 3,390,370,488 | 2,110,608,636 | 5,500,979,124 |
| 4 | Value of Office Accessories | 46,995,000 | - | 46,995,000 |
| 5 | Building Cost | 522,199,980 | 757,259,243 | 1,279,459,223 |
| 6 | LandUse Premium | 482,652,009 | | 482,652,009 |
| **Total** | | **6,843,279,768** | **4,133,367,879** | **10,976,647,647** |

**E.F.R Logistics and Distribution Center (Mandalay)**

**Infrastructure Development Cost**

**Expressed in MMK for total value**

Annex I - A

| | | Phase I | | | Phase II | | |
|---|---|---|---|---|---|---|---|
| **Sr. No** | **Particular** | **Measurement** | **Unit** | **Estimate Cost** | **Measurement** | **Unit** | **Estimate Cost** |
| 1 | Site Preparation | 14 | Acres | 5,597,534 | - | Acres | - |
| 2 | Soil Filling | 33,541 | Sud | 1,006,228,994 | - | Sud | - |
| 3 | CY (Bonded & Empty) | 174,240 | sqft | 2,038,608,000 | 174,240 | sqft | 2,038,608,000 |
| 4 | Fencing Work -1 | 4,527 | Rft | 271,891,620 | - | Rft | - |
| 5 | Bonded Fencing | - | Rft | - | 3,200 | Rft | 63,999,936 |
| 6 | Design (L/S) | 1 | Unit | 999,700 | - | Unit | - |
| 7 | Substation & Electrical Works | 1 | L/S | 59,999,940 | - | L/S | - |
| 8 | Electrical Supply | - | L/S | - | 1 | L/S | 6,000,000 |
| 9 | Water Supply | 1 | L/S | 2,000,700 | 1 | L/S | 2,000,700 |
| 10 | Rail Link Repair & Maintenance | 388 | sqft | 5,044,000 | - | sqft | - |
| Total in MMK | | | | 3,390,370,487.53 | | | 2,110,608,635.98 |

## E.F.R Logistics and Distribution Center (Mandalay)

**Machinery To Be Imported As a Capital In Kind**

**Expressed in MMK in total value**

Annex I - B

| | | Phase I | | | | Phase II | | | |
|---|---|---|---|---|---|---|---|---|---|
| **Sr. No.** | **Item** | **A/C unit** | **U.P in USD** | **Qty** | **MMK** | **A/C unit** | **U.P in USD** | **Qty** | **MMK** |
| 1 | Reach Stacker | Nos | 450,000 | 2 | 1,170,000,000 | Nos | 450,000 | 0 | - |
| 2 | Empty Handler | Nos | 380,000 | 0 | - | Nos | 380,000 | 2 | 988,000,000 |
| 3 | Forklift (3tons) | Nos | 25,000 | 1 | 32,500,000 | Nos | 25,000 | 1 | 32,500,000 |
| 4 | Forklift (5 tons) | Nos | 30,000 | 1 | 39,000,000 | Nos | 30,000 | 1 | 39,000,000 |
| 5 | Prime Mover | Nos | 138,462 | 1 | 180,000,000.05 | Nos | 138,462 | 1 | 180,000,000.05 |
| 6 | X Ray Machine | Nos | 1,000,000 | 0 | - | Nos | 1,000,000 | 0 | - |
| 7 | Office Car | Nos | 20,000 | 1 | 26,000,000 | Nos | 20,000 | 1 | 26,000,000 |
| 8 | Weight Bridge | Nos | 90,000 | 1 | 117,000,000 | Nos | 90,000 | 0 | - |
| 9 | Generator | Nos | 225,000 | 1 | 292,500,000 | Nos | 225,000 | 0 | - |
| **Total in MMK** | | | | | **1,857,000,000.05** | | | | **1,265,500,000.05** |

## E.F.R Logistics and Distribution Center (Mandalay)

**Building Cost**

**Expressed in MMK in total value**

Annex I - C

| | | Phase I | | | | Phase II | | | |
|---|---|---|---|---|---|---|---|---|---|
| **Sr. No** | **Particular** | **Measurement** | **Unit** | **Storeys** | **Estimate Cost** | **Measurement** | **Unit** | **Storeys** | **Estimate Cost** |
| 1 | Temp Facilities at Site | 1500 | sqft | 1 | 19,999,980 | - | sqft | - | - |
| 2 | CFS & WH | 1 | sqft / Nod | 1 | 499,200,000 | - | sqft / Nod | - | - |
| 3 | Office Building (7 storyed) | - | sqft | 7 | - | 25242 | sqft | 7 | 757,259,243 |
| 4 | Gate | 1 | L / S | 1 | 3,000,000 | - | L / S | - | - |
| 5 | Water Tank | 1 | sqft | 1 | 6,000,002 | - | sqft | - | - |
| 6 | Fuel Tank | 1 | sqft | 1 | 6,000,002 | - | sqft | - | - |
| 7 | Generator House | 300 | sqft | 1 | 3,900,000 | - | sqft | - | - |
| | **Total in MMK** | | | | **522,199,979.99** | | | | **757,259,242.74** |

**E.F.R Logistics and Distribution Center (Mandalay)**

**List of Office Accessories (Local purchase)**

**Expressed in MMK in total value**

Annex II

| Sr. No | | Item | A/C unit | Qty | Unit Price | Amount |
|---|---|---|---|---|---|---|
| I | | *Office Accessories* | | | | |
| | 1 | Hand Phones | Nos | 15 | 195,000 | 2,925,000 |
| | 2 | Line Phones | Nos | 4 | 650,000 | 2,600,000 |
| | 3 | Faxes | Nos | 2 | 260,000 | 520,000 |
| | 4 | Air Cons | Nos | 6 | 455,000 | 2,730,000 |
| Sub total | | | | | | 8,775,000 |
| II | | *Computers & Accessories* | | | | |
| | 1 | Desktops | Nos | 18 | 780,000 | 14,040,000 |
| | 2 | Laptops | Nos | 7 | 1,040,000 | 7,280,000 |
| | 3 | Printers / Scanners & Copiers | Nos | 6 | 260,000 | 1,560,000 |
| | 4 | Servers | Nos | 1 | 780,000 | 780,000 |
| Sub total | | | | | | 23,660,000 |
| III | | *Furnitures and Fixtures* | Nos | | | |
| | 1 | Tables & Chairs | Nos | 28 | 390,000 | 10,920,000 |
| | 2 | Meeting Table & Chairs | Nos | 1 | 1,300,000 | 1,300,000 |
| | 3 | Cabinets | Nos | 6 | 390,000 | 2,340,000 |
| Sub total | | | | | | 14,560,000 |
| **Total in MMK** | | | | | | **46,995,000** |

